


# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

# ခွင့်ပြုမိန့်




ခွင့်ပြုမိန့်အမှတ် မနသ – ၁၂၁/၉၈ ၁၉၉၈ ခုနှစ်၊ မတ် လ ၁၀ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏အမည် ဆန်ကြာဒရေးမှူး ချုပ် မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာန

(ခ) အဘအမည် ..........

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် ..........

(ဃ) နေရပ်လိပ်စာ အမှတ်(၂၂၀/၂၃၄) ဗိုလ်ချုပ်အောင်ဆန်းလမ်း၊ ရန်ကုန်မြို့

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့် အဖွဲ့အစည်း ရွိုင်ရယ်မင်္ဂလာဒုံ ဂေါ့ဖ်အင်န် ကန်းထရီးကလပ်ကုမ္ပဏီလီမိတက် (Royal Mingalardon Golf & Country Club Co.,Ltd.)

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား နိုင်ငံတကာအဆင့်မီ(၁၈)ကျင်းပါ ဂေါက်ကွင်း၊တင်းနစ်ကွင်း၊ရေကူးကန်နှင့်အဆင့်မြင့်လုံးချင်းအိမ်(၁၀၀)လုံး တည်ဆောက်ခြင်းလုပ်ငန်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ(များ) မြေတိုင်းအမှတ်(၁၃၄–ဘီ) အမှတ်(၃)လမ်းမကြီးအရှေ့ဖက်၊ မင်္ဂလာဒုံမြို့နယ်၊ ရန်ကုန်တိုင်း

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်) (၃၃၄၆.၇၀)သန်း (ကျပ်သုံးထောင်သုံးရာလေးဆယ့်ခြောက်သန်းခုနှစ်သိန်းတိတိ)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

အမိန့် ကြော်ငြာစာအမှတ်၊ ၁၅/၉၈ (မနသ)

ရန်ကုန်မြို့၊ ၁၃၅၉ ခုနှစ်၊ တပေါင်းလဆန်း ၁၃ ရက်။

(၁၉၉၈ ခုနှစ်၊ မတ်လ ၁၀ ရက်)

၁။ ဆောက်လုပ်ရေး ဝန်ကြီးဌာန၊ မြို့ရွာ နှင့် အိုးအိမ် ဖွံ့ဖြိုးရေး ဦးစီးဌာန၊ (DHSHD) နှင့် မြန်မာကုမ္ပဏီ ဖြစ်သော ဇေကမ္ဘာ ကုမ္ပဏီ လီမိတက် (Zaykabar Co., Ltd.) တို့ ဖက်စပ်ပြုလျှက် ရွိုင်ရယ် မင်္ဂလာဒုံ ဂေါ့ဖ် အင်န် ကန်းထရီး ကလပ် ကုမ္ပဏီ လီမိတက် (Royal Mingalardon Golf & Country Club Co., Ltd.) တည်ထောင်၍ မြို့ရွာ နှင့် အိုးအိမ် ဖွံ့ဖြိုးရေး ဦးစီးဌာနပိုင် မင်္ဂလာဒုံမြို့နယ် အမှတ်(၃) လမ်းမကြီး အရှေ့ဘက် မြေတိုင်း အမှတ်(၅၃၄–ဘီ)ရှိ မြေ(၂၈၆)ဧက (၁၁၅၇၄၀၁.၉ စတုရန်းမီတာ)ကို ငှားရမ်း၍ နိုင်ငံတကာ အဆင့်မီ (၁၈)ကျင်းပါ ဂေါက်ကွင်း၊ တင်းနစ်ကွင်း၊ ရေကူးကန် နှင့် အဆင့်မြင့် လုံးချင်းအိမ် (၁၀၈)လုံး တည်ဆောက်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြု တင်ပြချက်အား (၆–၂–၉၈) နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၃/၉၈) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ ကော်မရှင်မှ မူအားဖြင့် သဘော တူညီခဲ့ပြီး၊ အစိုးရအဖွဲ့သို့ ဆက်လက် တင်ပြရန် ဆုံးဖြတ်ချက် နှင့် အညီ(၂၀–၂–၉၈) နေ့တွင် ကျင်းပပြုလုပ်သည့် ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရ အဖွဲ့၏ (၈/၉၈) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ အစည်းအဝေးမှ သဘောတူကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျှက် ရွိုင်ရယ် မင်္ဂလာဒုံ ဂေါ့ဖ် အင်န် ကန်းထရီး ကလပ် ကုမ္ပဏီ လီမိတက် (Royal Mingalardon Golf & Country Club Co., Ltd.)အား နိုင်ငံတကာ အဆင့်မီ (၁၈)ကျင်းပါ ဂေါက်ကွင်း၊ တင်းနစ်ကွင်း၊ ရေကူးကန် နှင့် အဆင့်မြင့် လုံးချင်းအိမ် (၁၀၀)လုံး တည်ဆောက်ခြင်း လုပ်ငန်း ဆောင်ရွက်နိုင်ရန် အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ–၁၂၅/၉၈ ကို ထုတ်ပေး လိုက်သည်။

၂။ ရွိုင်ရယ် မင်္ဂလာဒုံ ဂေါ့ဖ် အင်န် ကန်းထရီး ကလပ် ကုမ္ပဏီ လီမိတက် (Royal Mingalardon Golf & Country Club Co., Ltd.) အနေဖြင့် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ ဝန်ဆောင်မှု လုပ်ငန်း စတင်သောနှစ် အပါအဝင် တစ်ဆက်တည်း (၃) နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် နှင့် ဥပဒေ ပုဒ်မ ၁၃ ပါ ပြဋ္ဌာန်းချက်များ နှင့် အညီ အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့်ကြော်ငြာစာကို ထုတ်ပြန်လိုက်သည်။

(က) ဥပဒေ ပုဒ်မ ၁၃(က) အရ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုတွင် ပါဝင်သော နိုင်ငံခြားငွေ ပမာဏ အပေါ် မူတည်၍ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလအတွင်း နိုင်ငံခြားငွေဖြင့် ရင်းနှီးမြှုပ်နှံသည့် ပမာဏကို ဖော်ပြလျှက် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေပေါ် မူတည်၍ ဤကော်မရှင်သို့ လျှောက်ထားရမည်။

(ခ) ဥပဒေ ပုဒ်မ ၁၃(ဂ) အရ ဝန်ဆောင်မှု လုပ်ငန်းကြောင့် သတ်မှတ်သည့် နှုန်းအထိ ပြည်တွင်း ပြည်ပ ဝင်ငွေတိုးတက်မှု ရှိပါက သတ်မှတ်ချက် နှင့် အညီ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီးသည့်အခါ လုပ်ငန်း အကောင် အထည်ဖော် ဆောင်ရွက်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(ဂ) ဥပဒေ ပုဒ်မ ၁၃(စ) အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့် ရန်ပုံငွေထား၍ တစ်နှစ် အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ် ဝင်ငွေခွန် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလ ကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံမှု ပြုသည့်အခါ လုပ်ငန်း အမှန်တကယ် အကောင် အထည် ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(ဃ) ဥပဒေ ပုဒ်မ ၁၃(ဆ) အရ လုပ်ငန်းသုံးမတည်ပစ္စည်းများအပေါ် တန်ဖိုးလျော့ငွေကို သတ်မှတ် သည့် နှုန်းအတိုင်း နှစ်တိုတို နှင့် မူလတန်ဖိုး ပြည့်မီသည်အထိ အမြတ်ငွေမှ နုတ်ပယ်ခွင့် နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုး လျော့နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြ လျှောက်ထား ရမည်။

(င) ဥပဒေ ပုဒ်မ ၁၃(ဓ) အရ ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလအတွင်း ပြည်တွင်း၌ မရရှိနိုင်သည့် အမှန် တကယ် လိုအပ်၍ ပြည်ပမှတင်သွင်းသော စက်ပစ္စည်း၊ စက်အရန်ပစ္စည်း၊ စက်ကိရိယာ အစိတ်အပိုင်း၊ လုပ်ငန်းသုံး ပစ္စည်းများအပေါ်တွင် အကောက်ခွန် နှင့် အခြား ပြည်တွင်း အခွန် အကောက်များကို ကင်းလွတ်ခွင့်ပြုသည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ၁၃(ဓ)အရ ပြည်ပမှ တင်သွင်းသည့် စက်ပစ္စည်းများ၊ စက်အရန်ပစ္စည်းများ၊ စက်ကိရိယာ အစိတ်အပိုင်းများ၊ လုပ်ငန်းသုံးပစ္စည်းများ နှင့် ပတ်သက်၍ အောက်ပါ အတိုင်း လိုက်နာဆောင်ရွက်ရမည်။

(က) နိုင်ငံခြားငွေ ရရှိပုံနည်းလမ်း (Source of Payments for Import) ဥပမာ – ပြည်ပတင်ပို့မှု မှ ဝင်ငွေ၊ ပြည်ပချေးငွေ (Loan and Credits) ကုန်ပစ္စည်း ပြန်လည် ဝယ်ယူသည့်စနစ် (Buy-back System) ရွှေ့ဆိုင်း ငွေပေးချေမှု စနစ် (Deferred Payment System) စသည် တို့ကို ဖော်ပြရန်။

(ခ) တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေး ကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရန်။

(ဂ) စစ်ဆေးရေး ကိုယ်စားလှယ်၏ စစ်ဆေးပြီးကြောင်း အထောက်အထား (Inspection Certificate) ဖြင့် တင်သွင်းမည့် ပစ္စည်းအမျိုးအစား စာရင်း (Invoice and Packing List) များကို နိုင်ငံခြား မတည်ငွေရင်းတန်ဖိုး သတ်မှတ်ရေးအဖွဲ့ထံသို့ တင်ပြ၍ ထောက်ခံချက် ရယူရန်။

၄။ ရွှိုင်ရယ် မင်္ဂလာဒုံ ဂေါက် အင်န် ကန်းထရီး ကလပ် ကုမ္ပဏီ လီမိတက် (Royal Mingalardon Golf & Country Club Co., Ltd.)သည် လုပ်ငန်းအတွက် ပြည်ပမှ စက်ပစ္စည်းများ၊ စက်အရန် ပစ္စည်းများ၊

လုပ်ငန်းသုံး ပစ္စည်းများကို ပြည်ပချေးငွေ (Loan and Credits)၊ ကုန်ပစ္စည်း ပြန်လည် ဝယ်ယူသည့်စံနစ် (Buy-back System)၊ ရွှေ့ဆိုင်း ငွေပေးချေစံနစ် (Deferred Payment System) စသည်တို့ဖြင့် ဝယ်ယူတင်သွင်းပြီး၊ ပြန်လည် ပေးဆပ်သည့်အခါ အဆိုပြု လုပ်ငန်းမှ ရရှိသည့် တရားဝင် နိုင်ငံခြားငွေဖြင့်သာ ပေးဆပ်ရမည်။

၅။ အဆိုပြုလုပ်ငန်းအတွက် ပြည်ပမှ စက်ပစ္စည်းများ၊ စက်အရန်ပစ္စည်းများ နှင့် လုပ်ငန်းသုံး ပစ္စည်းများကို ပြည်ပချေးငွေ (Loan and Credits)၊ ကုန်ပစ္စည်း ပြန်လည် ဝယ်ယူသည့်စံနစ် (Buy-back System)၊ ရွှေ့ဆိုင်း ငွေပေးချေစံနစ် (Deferred Payment System) စသည်တို့ဖြင့် ရယူဆောင်ရွက် ခြင်းသည် နိုင်ငံတော်နှင့် သက်ဆိုင်ခြင်း မရှိပဲ ငွေချေးသူ၏ တာဝန်သာ ဖြစ်စေရမည်။

၆။ ရွှိုင်ရယ် မင်္ဂလာဒုံ ဂေါ့ဖ် အင်န် ကန်းထရီး ကလပ် ကုမ္ပဏီ လီမိတက် (Royal Mingalardon Golf & Country Club Co., Ltd.) ကို မြန်မာ ကုမ္ပဏီများ အက်ဥပဒေ နှင့်အညီ မှတ်ပုံတင်နိုင်ရန် အတွက် ကုမ္ပဏီများ ညွှန်ကြားမှုဌာန၊ ရင်းနှီးမြှုပ်နှံမှု နှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာနသို့ လျှောက်ထားရမည်။ ကုမ္ပဏီအား မှတ်ပုံတင်ပြီးသည့် အခါ အောက်ဖော်ပြပါ စာရွက်စာတမ်း (၅) စောင်စီကို ဤကော်မရှင်သို့ ပေးပို့ တင်ပြရမည်။

(က) ကုမ္ပဏီ မှတ်ပုံတင် လက်မှတ် (Certificate of Incorporation)

(ခ) ကုမ္ပဏီများ ညွှန်ကြားမှု ဌာနက အတည်ပြုပြီးဖြစ်သည့် မြန်မာ–အင်္ဂလိပ် နှစ်ဘာသာဖြင့် ပြုစုထားသော ကုမ္ပဏီ သင်းဖွဲ့စည်းမျဉ်း နှင့် သင်းဖွဲ့မှတ်တမ်းများ (Memorandum and Articles of Association)

၇။ အဆိုပြု လုပ်ငန်းကို ဆောင်ရွက်နိုင်ရန် အတွက် မြို့ရွာ နှင့် အိုးအိမ် ဖွံ့ဖြိုးရေး ဦးစီးဌာန နှင့် ရွှိုင်ရယ် မင်္ဂလာဒုံ ဂေါ့ဖ် အင်န် ကန်းထရီး ကလပ် ကုမ္ပဏီ လီမိတက် (Royal Mingalardon Golf & Country Club Co., Ltd.)တို့ ချုပ်ဆိုမည့် ဖက်စပ်လုပ်ငန်း သဘောတူစာချုပ် နှင့် မြေငှါးစာချုပ်တို့ လက်မှတ် ရေးထိုးပြီးသည့်အခါ ယင်း သဘောတူ စာချုပ် မိတ္တူ (၅) စောင်စီကို ဤ ကော်မရှင်သို့ မပျက်မကွက် တင်ပြရမည်။

၈။ မြေငှါးရမ်းခြင်း၏ သက်တမ်းမှာ မြန်မာနိုင်ငံသား လုံးချင်းအိမ်ရာ ဝယ်သူများအား နှစ်(၆၀) ဂရန် ထုတ်ပေး၍ ဂေါက်ကွင်းနှင့် ဆက်စပ်လုပ်ငန်းများ အတွက် ကနဦး နှစ်(၃၀)နှင့် နောက်ထပ် (၅)နှစ် (၄)ကြိမ် တိုးမြှင့်ခွင့် ပြုသည်။

၉။ ရွှိုင်ရယ် မင်္ဂလာဒုံ ဂေါ့ဖ် အင်န် ကန်းထရီး ကလပ် ကုမ္ပဏီ လီမိတက် (Royal Mingalardon Golf & Country Club Co., Ltd.)သည် တည်ဆောက်ရေးကာလ (၄)နှစ်အတွင်း ပထမနှစ် နှင့် ဒုတိယနှစ် တို့တွင် (၁၈)ကျင်းပါ ဂေါက်ကွင်း နှင့် အဆင့်မြင့် လုံးချင်းအိမ် အလုံး(၁၀၀)ကို အပြီး တည်ဆောက်ရမည်။ တတိယနှစ် နှင့် စတုတ္ထနှစ် တို့တွင် ရေကူးကန် နှင့် တင်းနစ်ကွင်းကို အပြီးတည်ဆောက်ရမည်။

၁၀။ ဘဏ်အာမခံကြေး အဖြစ် ဇေကမ္ဘာ ကုမ္ပဏီ လီမိတက် (Zaykabar Co., Ltd.)သည်၊ ယင်း ထည့်ဝင်ရမည့် ကျပ်(၂၃၃၅.၇)သန်း၏ (၂)ရာခိုင်နှုန်း ဖြစ်သော ကျပ်(၄၆.၇)သန်း (ကျပ် လေးဆယ့်ခြောက် သန်း ခုနစ်သိန်း) ကို မြို့ရွာ နှင့် အိုးအိမ် ဖွံ့ဖြိုးရေး ဦးစီးဌာနမှ သတ်မှတ်သည့် ဘဏ်တွင် စာချုပ် လက်မှတ် ရေးထိုးသည့် နေ့မှ ရက်ပေါင်း(၃၀)အတွင်း ထားရှိပေးရမည်။

၁၁။ ရွိုင်ရယ် မင်္ဂလာဒုံ ဂေါက် အင်န် ကန်းထရီး ကလပ် ကုမ္ပဏီ လီမိတက် (Royal Mingalardon Golf & Country Club Co., Ltd.) သည် မြေငှါးရမ်းကာလ ကုန်ဆုံးပါက မြေငှါးကာလ ကုန်ဆုံးပြီး (၃)လ အတွင်း မြေနှင့်တကွ လက်ဝယ်ထားရှိသော မရွှေ့မပြောင်းနိုင်သည့် ပစ္စည်းများကို မြို့ရွာ နှင့် အိုးအိမ် ဖွံ့ဖြိုးရေး ဦးစီးဌာနသို့ အဖိုးစားနားမဲ့ ပြန်လည် လွှဲပြောင်းပေးရမည်။

၁၂။ ရွိုင်ရယ် မင်္ဂလာဒုံ ဂေါက် အင်န် ကန်းထရီး ကလပ် ကုမ္ပဏီ လီမိတက် (Royal Mingalardon Golf & Country Club Co., Ltd.)သည် နိုင်ငံခြားသားများ သို့မဟုတ် နိုင်ငံခြား ကုမ္ပဏီများသို့ အိမ်ရာများကို ရောင်းချခွင့် မရှိပါ။ ထို့အပြင် ၁၉၈၇ ခုနှစ်၊ မရွှေ့မပြောင်းနိုင်သော ပစ္စည်းများ လွှဲပြောင်းခြင်းကို ကန့်သတ်သည့် ဥပဒေ အရ တစ်ကြိမ်လျှင် တစ်နှစ်ထက် ပို၍ အငှါးချထားခြင်း မပြုရသည့်အပြင် အငှါးချထားခြင်း ခံရသူ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား ကုမ္ပဏီက အခြား တစ်ဦးတစ်ယောက်သို့ ထပ်ဆင့်ငှါးရမ်းခြင်း (Sub-Lease)၊ လွှဲပြောင်းခြင်း (Transfer) တို့ကို ပြုလုပ်ခွင့် မရှိကြောင်း အငှါးစာချုပ် တွင် ထည့်သွင်း ချုပ်ဆိုရမည်။

၁၃။ ရင်းနှီးမြှုပ်နှံသူအနေဖြင့် မြေအသုံးပြုမှုနှင့်ပတ်သက်၍ နိုင်ငံတော်အစိုးရမှ မြေယာ နှင့် ပတ်သက်၍ သတ်မှတ် ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက်များကို တိကျစွာ လိုက်နာ ဆောင်ရွက်ရမည်။

၁၄။ ရွိုင်ရယ် မင်္ဂလာဒုံ ဂေါက် အင်န် ကန်းထရီး ကလပ် ကုမ္ပဏီ လီမိတက် (Royal Mingalardon Golf & Country Club Co., Ltd.)မှ နိုင်ငံခြားသား ကျွမ်းကျင်သူများ ငှားရမ်းခွင့် ကိစ္စနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ဆိုင်ရာ လုပ်ထုံးလုပ်နည်းများ အခန်း(၉)၊ အပိုဒ် ၃၃ပါ သတ်မှတ်ချက်များနှင့်အညီ ဤကော်မရှင်သို့ သီးခြား တင်ပြလျှောက်ထားရမည်။

၁၅။ အဆိုပြု လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းအလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား ဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားမှု ဦးစီးဌာန နှင့် ညှိနှိုင်းဆောင်ရွက်ရမည်။

၁၆။ ရွိုင်ရယ် မင်္ဂလာဒုံ ဂေါက် အင်န် ကန်းထရီး ကလပ် ကုမ္ပဏီ လီမိတက် (Royal Mingalardon Golf & Country Club Co., Ltd.)သည် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှု လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေး အန္တရာယ် စသည်များ။ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံကတိ ပြုထားသည့်အတိုင်း စံနစ်တကျ ထားရှိဆောင်ရွက်ရမည်။

၁၇။ အဆိုပြု လုပ်ငန်း စတင် ဆောင်ရွက်သည့် နေ့ရက်ကို ဤကော်မရှင်သို့ အမြန်ဆုံး မပျက်မကွက် အစီရင်ခံရမည်။

၁၈။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ တစ်နှစ်အတွင်း အဆိုပြုလုပ်ငန်း စတင် ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီးဖြစ်သည်ဟု မှတ်ယူရမည်။

အမိန့်အရ –

( ဗိုလ်မှူးချုပ် မောင်မောင် )
အတွင်းရေးမှူး

စာအမှတ်၊ ရက–၁/မ–၁၄၁/၉၇ (၂၃၀၁)
ရက်စွဲ၊ ၁၉၉၈ ခုနှစ်၊ မတ်လ ၁၀ ရက်။

ဖြန့်ဝေခြင်း–

၁။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ဥက္ကဋ္ဌရုံး။
၂။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ရုံး။
၃။ အစိုးရအဖွဲ့ရုံး။
၄။ အမျိုးသား စီမံကိန်း နှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။
၅။ အလုပ်သမား ဝန်ကြီးဌာန။
၆။ စီးပွားရေး နှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။
၇။ ဆက်သွယ်ရေး၊ စာတိုက်နှင့် ကြေးနန်း ဝန်ကြီးဌာန။
၈။ ဘဏ္ဍာရေး နှင့် အခွန်ဝန်ကြီးဌာန။
၉။ ဆောက်လုပ်ရေး ဝန်ကြီးဌာန။
၁၀။ လူဝင်မှု ကြီးကြပ်ရေး နှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန။
၁၁။ လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန။
၁၂။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။
၁၃။ ဥက္ကဋ္ဌ၊ နိုင်ငံခြားမတည်ငွေရင်းတန်ဖိုး သတ်မှတ်ရေး အဖွဲ့ငယ်။ (ညွှန်ကြားရေးမှူးချုပ်၊ ဗဟိုစက်ပစ္စည်း စာရင်းအင်း နှင့် စစ်ဆေးရေး ဦးစီးဌာန။)
၁၄။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှု နှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။
၁၅။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမား ညွှန်ကြားမှု ဦးစီးဌာန။
၁၆။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။
၁၇။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ ဆက်သွယ်ရေး လုပ်ငန်း။
၁၈။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။
၁၉။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်း အခွန်များ ဦးစီးဌာန။
၂၀။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။

၂၁။ ညွှန်ကြားရေးမှူးချုပ်၊ မြို့ရွာ နှင့် အိုးအိမ် ဖွံ့ဖြိုးရေး ဦးစီးဌာန။
၂၂။ ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှု ကြီးကြပ်ရေး နှင့် အမျိုးသား မှတ်ပုံတင်ရေး ဦးစီးဌာန။
၂၃။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း။
၂၄။ ဥက္ကဋ္ဌ၊ ပြည်ထောင်စု မြန်မာနိုင်ငံ ကုန်သည်များ နှင့် စက်မှုလက်မှုလုပ်ငန်းရှင်များ အသင်း။
၂၅။ အုပ်ချုပ်မှု ဒါရိုက်တာ၊ ရွိုင်ရယ် မင်္ဂလာဒုံ ဂေါ့ဖ် အင်န် ကန်းထရီး ကလပ် ကုမ္ပဏီ လီမိတက် (Royal Mingalardon Golf & Country Club Co., Ltd.)။

အ မိန့် အ ရ –

( မောင်မောင်ရီ )
တွဲဖက်အတွင်းရေးမှူး

906
4/3/98

အထွေထွေအရပ်ရပ် - ၁၆

( ရုံးတွင်း စာအကျဉ်းချုပ်သို့တည်း မဟုတ် စာကြမ်း ရေးရန်အတွက် )

အကြောင်းအရာ။ ။ ရွှိုင်ရယ်မင်္ဂလာဒုံ ဂေါ့ဖ်အင်န်ကန်းထရီးကလပ် ကုမ္ပဏီလီမိတက်( Royal Mingalardon Golf & Country Club Co., Ltd. - )တည်ဆောက်၍ နိုင်ငံတကာအဆင့်မီ( ၁၈ )ကျင်းပါ ဂေါက်ကွင်းနှင့်အဆင့်မြင့်အိမ်ရာစီမံကိန်းဆောင်ရွက်ရန် အဆိုပြုတင်ပြခြင်းကိစ္စ။

၁။ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန( DHSHD )နှင့် မြန်မာကုမ္ပဏီဖြစ်သော ဇေကမ္ဘာကုမ္ပဏီလီမိတက် ( Zaykabar Co., Ltd. (ZKB) )တို့ဖက်စပ်ပြုလျက် ရွှိုင်ရယ်မင်္ဂလာဒုံ ဂေါ့ဖ်အင်န်ကန်းထရီးကလပ်ကုမ္ပဏီလီမိတက်( Royal Mingalardon Golf & Country Club Co., Ltd. )တည်ဆောက်၍ မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနပိုင် မင်္ဂလာဒုံမြို့နယ်၊ အမှတ်( ၃ )လမ်းမကြီးအရှေ့ဖက်၊ မြေတိုင်းအမှတ်( ၅၃၄ဘီ ) ရှိ မြေ( ၂၈၆ )ဧက( ၁၁၅၇,၄၀၁.၉ စတုရန်းမီတာ )ကို ငှားရမ်း၍ နိုင်ငံတကာအဆင့်မီ( ၁၈ )ကျင်းပါ ဂေါက်ကွင်း၊ တင်းနစ်ကွင်း၊ ရေကူးကန်နှင့်အဆင့်မြင့်လုံးချင်းအိမ်( ၁၀၀ )လုံးတည်ဆောက်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်အား( ၆-၂-၉၈ ) နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏( ၃/၉၈ )ကြိမ်မြောက်အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၂။ ကော်မရှင်မှ မူအားဖြင့်သဘောတူညီခဲ့ပြီး၊ အစိုးရအဖွဲ့သို့ ဆက်လက်တင်ပြရန် ဆုံးဖြတ်ချက်နှင့်အညီ ( ၂၀-၂-၉၀ ) နေ့တွင် ကျင်းပပြုလုပ်သည့် ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့၏ ( ၈/၉၀ ) ကြိမ်မြောက်အစည်းအဝေးသို့ တင်ပြခဲ့ရာ အစည်းအဝေးမှ သဘောတူကြောင်းဆုံးဖြတ်ခဲ့ပါသည်။

၃။ သို့ဖြစ်ပါ၍ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း ( ၅ )၊ ပုဒ်မ ၁၀ နှင့်ယင်းဥပဒေဆိုင်ရာ လုပ်ထုံးလုပ်နည်းများအခန်း ( ၄ )၊ အပိုဒ် ၁၂ တို့နှင့်အညီ ရွှိုင်ရယ်မင်္ဂလာဒုံ ဂေါက်ဖ်အင်န်ကန်းထရီးကလပ်ကုမ္ပဏီလီမိတက် ( Royal Mingalardon Golf & Country Club Co., Ltd. ) သို့ ထုတ်ပေးမည့် ခွင့်ပြုမိန့်တွင် လက်မှတ်ရေးထိုးနိုင်ပါရန်နှင့်ယင်းခွင့်ပြုမိန့်ထုတ်ပေးမည့် အမှာစာ( မူကြမ်း ) ကို သဘောတူအတည်ပြုပေးနိုင်ပါရန် ပြုစုတင်ပြ အမိန့်နာခံအပ်ပါသည်။

၄-၃-၉၀

အတွင်းရေးမှူး( ဝန်ကြီး )။

Permit [illegible]

ဥက္ကဋ္ဌ( ဒုတိယဝန်ကြီးချုပ် )။

* စိနိ ၆-၃-၉၀။

လျှို့ဝှက်

ပြည်ထောင်စုမြန်မာနိုင်ငံတော်

မြန်မာနိုင်ငံ့ရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ ရက-၁/မ-၈၄၄/၉၇(၂၁၅၆)။

ရက်စွဲ၊ ၁၉၉၈ ခုနှစ်၊ ဖေဖော်ဝါရီလ ၁၃ ရက်။

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့သို့

တင်ပြသည့်အမှာစာ

အကြောင်းအရာ။ ။ မင်္ဂလာဒုံ ဂေါက်အင်န်ကန်းထရီးကလပ်ကုမ္ပဏီလီမိတက်တည်ထောင်၍ နိုင်ငံတကာအဆင့်မီ (၁၈) ကျင်း ဂေါက်ကွင်းနှင့်အဆင့်မြင့်အိမ်ရာစီမံကိန်း ဆောင်ရွက်ရန်အဆိုပြုတင်ပြခြင်းကိစ္စ။

၁။ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန (DHSHD) နှင့် ဇေကဗ္ဘာကုမ္ပဏီလီမိတက် (Zaykabar Co., Ltd)(ZKB) တို့ဖက်စပ်ဖွဲ့စည်းမည့် မင်္ဂလာဒုံဂေါက်အင်န်ကန်းထရီးကလပ်ကုမ္ပဏီလီမိတက် (Royal Mingalardon Golf & Country Club Co., Ltd.) တည်ထောင်၍ နိုင်ငံတကာအဆင့်မီ (၁၈) ကျင်း ဂေါက်ကွင်းနှင့်အဆင့်မြင့်အိမ်ရာစီမံကိန်းကိုမြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ရန်အဆိုပြုတင်ပြလာပါသည်။ ယင်းအဆိုပြုချက်ကို (၉-၂-၉၈) နေ့တွင်ကျင်းပပြုလုပ်ခဲ့သည့်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၃/၉၈) ကြိမ်မြောက်အစည်းအဝေးသို့တင်ပြခဲ့ရာ ယင်းအစည်းအဝေးမှလုပ်ငန်းဆောင်ရွက်ရန်မူအားဖြင့်သဘောတူပြီး အစိုးရအဖွဲ့သို့ဆက်လက်တင်ပြရန် ဆုံးဖြတ်ချက်အရတင်ပြခြင်းဖြစ်ပါသည်။ အဆိုပြုချက်နှင့်အတူဖက်စပ်လုပ်ငန်းသဘောတူစာချုပ် (မူကြမ်း)၊ မြေငှားသဘောတူစာချုပ် (မူကြမ်း)၊ ရှေ့နေချုပ်ရုံး၏သဘောထားမှတ်ချက်နှင့်ငွေပဒ္ဒသီးနှင့် ကုန်ကြမ်း ပစ္စည်းများဝယ်ယူရန် Suppliers' Credit - စာချုပ် (မူကြမ်း) များကို နောက်ဆက်တွဲ (၁) အဖြစ်ပေးပို့ထားပါသည်။

လျှို့ဝှက်

၂။ ဤလုပ်ငန်း၏ မတည်ငွေရင်း ပမာဏ၊ မတည်ငွေရင်း အချိုးအစား နှင့် ချေးငွေပမာဏတို့မှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

| | မတည်ငွေရင်းပမာဏ (ကျပ်သန်း) | အချိုးအစား |
|---|---|---|
| - DHSHD | ၃.၀၀ | ၃၀% |
| - ZKB | ၇.၀၀ | ၇၀% |
| | ၁၀.၀၀ | |

| | | |
|---|---|---|
| Interest Free Share-holder's Loan | | |
| - DHSHD | ၁၀၀၀.၀၀ | |
| - ZKB | ၂၃၀၄.၉၀ | |
| ဇေကမ္ဘာကုမ္ပဏီလီမိတက် ချေးငွေ | | |
| - စက်ပစ္စည်း ကရိယာ | ၁၀.၈၅ | ( US $ ၁.၈၀၈သန်း ) |
| - ကုန်ကြမ်း | ၁၉.၉၅ | ( US $ ၃.၃၂၅သန်း ) |
| စုစုပေါင်း | ၃၃၄၆.၇၀ | ( US $ ၅.၁၃၃သန်းအပါအဝင်) |

၃။ ဤလုပ်ငန်းကို ဆောင်ရွက်ရန်အတွက်မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုး ရေး ဦးစီး ဌာနပိုင်မြေ (၂၀၆) ဧကအား မြေငှားရမ်းခအဖြစ်တစ်ဧကလျှင်ကျပ် (၃၅)သိန်း နှုန်းဖြင့်ကျပ် (၁၀၀၁) သန်းအား DHSHD မှ Interest Free Share-holders' Loan အဖြစ်လည်းကောင်း၊ ZKB မှကျပ် (၂၃၃၅.၇)သန်းကို Interest Free Share-holders' Loan အဖြစ်လည်းကောင်း သတ်မှတ်ထည့်ဝင်ထားခြင်း ဖြစ်ပါသည်။ အမေရိကန် ဒေါ်လာ (၅.၁၃၃) သန်း တန်ဖိုး ရှိစက်ပစ္စည်း ကိရိယာများ နှင့်ကုန်ကြမ်း ပစ္စည်း များ ကို ဇေကမ္ဘာကုမ္ပဏီလီမိတက်အနေဖြင့် စင်ကာပူနိုင်ငံ SWI Investment Pte Ltd မှ Suppliers' Credit စနစ်ဖြင့် ဝယ်ယူမည်ဖြစ်ပါသည်။ အတိုး နှုန်း မှာတစ်နှစ်လျှင် (၈) ရာခိုင်နှုန်းဖြစ်ပြီး၊ ဆိုင်းငံ့ကာလ (၃) နှစ်နှင့် (၅) နှစ်အတွင်း ပြန်လည်ပေးဆပ်ရမည်ဖြစ်ပါသည်။

၄။ ဤလုပ်ငန်းကို ဆောင်ရွက်ရန်အတွက် မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနပိုင် မင်္ဂလာဒုံမြို့နယ်၊ အမှတ်(၃)လမ်းမကြီး အရှေ့ဖက်၊ မြေကွက်အမှတ်(၅၃၄ ဘီ)ရှိ မြေ(၂၀၆)ဧက(၁၁၅၇၄၀၅.၉ စတုရန်းမီတာ) ပေါ်တွင် နိုင်ငံတကာ အဆင့်မီ(၁၈)ကျင်း ဂေါက်ကွင်း၊ တင်းနစ်ကွင်း၊ ရေကူးကန်နှင့်အဆင့်မြင့်လုံး ချင်းအိမ်(၁၀၀)လုံး တည်ဆောက်ခြင်း လုပ်ငန်းများကို ဆောင်ရွက်မည်ဖြစ်ပါသည်။

၅။ မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနနှင့် ZKB တို့ချုပ်ဆိုမည့် ဖက်စပ်သဘောတူစာချုပ်(မူကြမ်း)နှင့် မြေငှားသဘောတူစာချုပ်(မူကြမ်း) တို့တွင်ပါဝင်သော အဓိကအချက်များမှာ အောက်ပါအတိုင်းဖြစ်ပါသည်။

- မြေငှားရမ်းကာလမှာ လုံးချင်းအိမ်ရာဝယ်ယူသူများအား နှစ်(၆၀) ဂရန်ထုတ်ပေး၍ ဂေါက်ကွင်းနှင့်ဆက်စပ်လုပ်ငန်းများအတွက် ကနဦး နှစ်(၃၀)နှင့် နောက်ထပ်(၅)နှစ်(၄)ကြိမ်တိုး မြှင့်ခွင့် ဖြစ်ပါသည်။
- တည်ဆောက်မှုကာလ(၄)နှစ်အတွင်း ပထမနှစ်နှင့် ဒုတိယနှစ်တို့တွင် (၁၈)ကျင်း ဂေါက်ကွင်းနှင့်အဆင့်မြင့်လုံးချင်း အိမ်ရာ(၁၀၀) လုံး ပြီးစီးရမည်ဖြစ်ပြီး၊ တတိယနှစ်နှင့်စတုတ္ထနှစ်တို့တွင် ရေကူးကန် နှင့်တင်းနစ်ကွင်းတို့ပြီးစီးရမည်ဖြစ်ပါသည်။
- DHSHD ပိုင်ဆိုင်သည့် မြေ(၂၀၆)ဧကအား တစ်ဧကလျှင် မြေငှား ရမ်းခကျပ်(၃၅)သိန်းနှုန်းဖြင့်ကျပ်(၁၀၀၀၁)သန်း ကိုစီမံကိန်း တန်ဖိုး၏(၃၀)ရာခိုင်နှုန်းအဖြစ်လည်းကောင်း၊ ZKB သည် စီမံကိန်းတန်ဖိုး၏(၇၀)ရာခိုင်နှုန်းဖြစ် သောကျပ်(၂၃၃၅.၇) သန်းကိုလည်းကောင်းထည့်ဝင်ကြမည်ဖြစ်ပါသည်။
- စီမံကိန်းလုပ်ငန်းကုန်ကျစရိတ်သည်စီမံကိန်းလုပ်ငန်းတန်ဘိုး စုစု ပေါင်း၏(၇၀)ရာခိုင်နှုန်းထက်လျော့နည်းပါက ZKB သည်အဆို ပါလျော့နည်းငွေကိုဖက်စပ်ကုမ္ပဏီသို့ပေးသွင်းရမည်ဖြစ်ပြီး အဆိုပါ ပေးသွင်းသည့်ငွေကို DHSHD နှင့် ZKB တို့သည်ယင်းတို့၏ အစုရှယ်ယာအချိုးများ အရပိုင်ဆိုင်ခွင့်ရှိစေရမည်ဖြစ်ပါသည်။

- စီမံကိန်း လုပ်ငန်း ကုန်ကျစရိတ်သည် စီမံကိန်း လုပ်ငန်း တန်ဘိုးစုစုပေါင်း၏ (၇၀) ရာခိုင်နှုန်း ထက်ပိုမိုပါကအဆိုပါပိုမိုကုန်ကျငွေအတွက်ဘဏ်မှ ချေးယူရန် ZKB မှတာဝန်ယူရမည်ဖြစ်ပြီး၊ ဖက်စပ်ကုမ္ပဏီပိုင် ငွေအနေဖြင့်အရင်း ရောအတိုး ကိုပါပြန်လည် ပေးဆပ်ရမည်ဖြစ်ပါသည်။
- လုပ်ငန်း စတင် ဆောင်ရွက်ပြီး (၁၀) နှစ်အတွင်း DHSHD သည် နောက်ထပ်အစုရှယ်ယာ ၁၀ % ကိုမူရင်းတန်ဖိုး (Par value) ဖြင့် ဝယ်ယူခွင့်ရှိမည်ဖြစ်ပါသည်။
- ZKB အနေဖြင့် ဖက်စပ်ကုမ္ပဏီသို့ထည့်ဝင်ရမည့်စီမံကိန်းလုပ်ငန်း တန်ဘိုး ငွေပမာဏ၏ (၇၀) ရာခိုင်နှုန်း နှင့်ညီမျှ သော ငွေပမာဏ ကိုပြည့်မီအောင်ထည့်ဝင်နိုင်ရန်အတွက် ချေး ငွေအဖြစ် ရယူပါကယင်း ချေးငွေနှင့်အတိုး များ ကို ပေးဆပ်ရန်မှာ ZKB ၏တာဝန်သာဖြစ်ပြီး ဖက်စပ်ကုမ္ပဏီနှင့် ပတ်သက်မှုမရှိစေရန်ဖြစ်ပါသည်။
- ဖက်စပ်ကုမ္ပဏီကို DHSHD ဖက်မှ ဒါရိုက်တာ (၃) ဦးနှင့် ZKB ဖက်မှ ဒါရိုက်တာ (၄) ဦး ပါဝင် သော ဒါရိုက်တာအဖွဲ့တွင် ပထမ ဘဏ္ဍာရေး နှစ်၌ ဥက္ကဋ္ဌအဖြစ် DHSHD ဖက်မှ ဆောင်ရွက်ပြီး၊ နောက် ပိုင်း နှစ်များ တွင် DHSHD နှင့် ZKB တို့မှ တစ်နှစ်ခြား လှည့်တာဝန်ယူရမည်ဖြစ်ပါသည်။
- ၁၉၈၇ ခုနှစ်၊ မရွှေ့မပြောင်းနိုင်သော ပစ္စည်း လွှဲပြောင်းခြင်း ကိုကန့်သတ်သည့် ဥပဒေ ပုဒ်မ-၃ အရ လုံး ချင်း အိမ်ရာများ ကို နိုင်ငံခြား သား (သို့) နိုင်ငံခြား ကုမ္ပဏီများ သို့ ရောင်းချခွင့် မရှိသဖြင့် ဖက်စပ်ကုမ္ပဏီနှင့်သက်ဆိုင် ရာ နိုင်ငံခြားသား(သို့) နိုင်ငံခြား ကုမ္ပဏီကို စာချုပ်ချုပ်ဆို၍ ငှား ရမ်း အသုံး ပြုခွင့်ကိုသာ ခွင့်ပြု မည် ဖြစ်ပါသည်။

- ဖက်ဂပ်ကုမ္ပဏီအနေဖြင့်လုံးချင်းအိမ်ရာများ ဆောက်လုပ်ပြီးစီး၍ ရောင်းချသည့်အိမ်ရာများကိုဝယ်ယူသူအမည်ဖြင့်နှစ်(၆၀)ဂရံ ထုတ်ပေးရန်နှင့် ဂေါက်ကွင်း၊ ရေကူးကန်၊ တင်းနစ်ကွင်းနှင့်လူမှုရေး အဆောက်အဦများကိုကုမ္ပဏီအမည်ဖြင့်နှစ်(၃၀)ဂရံနှင့် (၅)နှစ်(၄)ကြိမ်တိုးမြှင့်ခွင့်ကို DHSHD နှင့်ညှိနှိုင်း ဆောင်ရွက်ရမည်ဖြစ်ပါသည်။
- မြေငှားကာလကုန်ဆုံးပြီး (၃)လအတွင်း မြေနှင့်တကွမရွှေ့ မပြောင်းနိုင်သည့်ပစ္စည်းများကို DHSHD အား ဖက်ဂပ်ကုမ္ပဏီမှအဖိုးစားနားမဲ့ပြန်လည်လွှဲပြောင်းပေးရမည်ဖြစ်ပြီး ဆက်လက်လုပ်ကိုင်ဆောင်ရွက်ခြင်းပြုလိုပါက DHSHD နှင့်စာချုပ်အသစ်ပြုလုပ်၍ ကော်မရှင်၏အတည်ပြုချက်ရယူကာ ဆောင်ရွက်ရမည် ဖြစ်ပါသည်။
- လုံးချင်းအိမ်များတွင်နေထိုင်သူ(သို့)နေထိုင်ခွင့်ရရှိသူများ သည်၎င်းတို့ရရှိသည့်ဂရံသက်တမ်းကုန်ဆုံးပြီးနောက်ဆက်လက်နေ ထိုင်ခွင့်ရရှိရန်အတွက် မြေငှားကာလတိုးမြှင့်ခွင့်ပြုရန် DHSHD သို့လျှောက်ထားရမည်ဖြစ်ပါသည်။
- ဘဏ်အာမခံကြေးအဖြစ်စီမံကိန်းတန်ဖိုး၏ ၇၀ ရာခိုင်နှုန်းနှင့် ညီမျှသောငွေကျပ်(၂၃၃၅.၇)သန်း၏ ၂ရာခိုင်နှုန်းဖြစ်သော ကျပ်(၄၆.၇)သန်းကို DHSHD မှသတ်မှတ်သည့်ဘဏ်တွင်စာချုပ် လက်မှတ်ရေးထိုးသည့်နေ့မှရက်ပေါင်း (၃၀)အတွင်းထားရှိ ပေးရမည်ဖြစ်ပါသည်။

၆။ ဤလုပ်ငန်းမှလုံးချင်းအိမ်(၁၀၀)လုံး၊ (၁၈)ကျင်းပါဂေါက်ကွင်း၊ တင်းနစ်ကွင်း၊ ရေကူးကန်တို့နှင့်ပတ်သက်သောအဆောက်အဦများ ဆောက်လုပ်မည်ဖြစ်ပါသည်။ လုံးချင်းအိမ်များကို(၂)နှစ်အတွင်း ရောင်းချမည်ဖြစ်ပြီး လုံးချင်းအိမ်တစ်လုံးလျှင် ကျပ်သိန်း (၃၀၀)ဖြင့်ရောင်းချမည်ဖြစ်ပါသည်။(၁၈)ကျင်းပါဂေါက်ကွင်း၏အသင်းဝင်ကြေးမှာနိုင်ငံခြားငွေဖြင့် US$ (၅၀၀၀)ဖြင့်

လည်း ကောင်း ၊ ကျပ်ငွေဖြင့်ကျပ် ၅သိန်း ဖြင့်လည်း ကောင်း ၊ လဝဉ် ကြေးမှ ၁ နိုင်ငံခြား ငွေဖြင့်US$ (၅၀)နှုန်း နှင့်ကျပ်ငွေဖြင့်ကျပ် (၄၀၀၀) နှုန်းနှင့်အသင်းဝင် မဟုတ်သူများ ကရင်း ကြေး အဖြစ်တစ်နေ့လျှင်နိုင်ငံခြား ငွေဖြင့် US $ (၅၀)နှုန်း နှင့်ကျပ်ငွေဖြင့်ကျပ် (၂၀၀၀) နှုန်း ဖြစ်ပါသည်။

၇။ ဤလုပ်ငန်း ကို ဆောင်ရွက်ခြင်း ဖြင့်ဖက်ဝပ်ကုမ္ပဏီမှ ပုံမှန်နှစ်တွင် ရရှိမည့်ဝင်ငွေနှင့်အသုံး ဝရိတ်ခန့်မှန်း ခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

(ကျပ်သန်း)

| | | ပြည်တွင်း | နိုင်ငံခြား | ပေါင်း |
|---|---|---|---|---|
| (က) | ဝင်ငွေ | ၂၉၀.၄၇ | ၂၅.၀၀ | ၃၁၅.၄၇ |
| (ခ) | အသုံး ဝရိတ် | ၂၁၇.၁၂ | ၆.၇၀ | ၂၂၃.၈၂ |
| (ဂ) | အသားတင်အမြတ် | ၇၃.၃၅ | ၁၈.၃၀ | ၉၁.၆၅ |

၈။ ဤလုပ်ငန်း ကို ဆောင်ရွက်ခြင်း ဖြင့်နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့်အကျိုး အမြတ်ခန့်မှန်း ခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

| | | |
|---|---|---|
| (က) ဝင်ငွေခွန် | (ကျပ်သန်း) | ၃၁.၄၄ |
| | (အမေရိကန် ဒေါ်လာသန်း) | ၀.၅၄ |
| (ခ) ကုန်သွယ်လုပ်ငန်းခွန် (ကျပ်သန်း) | | ၁၆.၈၈ |
| | (အမေရိကန် ဒေါ်လာသန်း) | ၀.၂၀ |
| (ဂ) DHSHD ၏အမြတ်ဝေစု (ကျပ်သန်း) | | ၂၂.၀၁ |
| | (အမေရိကန် ဒေါ်လာသန်း) | ၀.၉၂ |

၉။ ဤလုပ်ငန်း ကို ဆောင်ရွက်ရန်ပြည်တွင်း မှအမြဲတန်း ဝန်ထမ်း(၁၆၂) ဦး၊ နေ့ဝား ဝန်ထမ်း (၁၀၀) ဦးနှင့်နိုင်ငံခြားသား ပညာ ရှင်အား ကနဦး(၆) ဦးနှင့်ကည် ဆောက်ရေး ကာလပြီး ဆုံး ပါက (၂) ဦး ခန့်သ ခန့်ထား ဆောင်ရွက်မည် ဖြစ်ပါသည်။

၁၀။ ဤလုပ်ငန်းကို ဆောင်ရွက်ရာတွင် နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှု မရှိပါကြောင်း ၊ ပတ်ဝန်းကျင်ညစ်ညမ်းမှု မဖြစ်ပွားစေရန် ကြိုတင်ကာကွယ်မှုများ ပြုလုပ်ထားမည်ဖြစ်ကြောင်းနှင့် ချေးငွေကိုပြန်လည်ပေးဆပ်ရာတွင် အဆိုပြုလုပ်ငန်းမှ ရရှိသည့် နိုင်ငံခြားသုံးငွေဖြင့်သာ ပြန်လည်ပေးဆပ်မည်ဖြစ်ကြောင်း ကတိဝန်ခံချက်ပေးထားပါသည်။

၁၁။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ - ၁၂ နှင့် ၁၃ ပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် လျှောက်ထားလာပါသည်။ ဥပဒေပုဒ်မ ၁၂ အရ ၊ စီးပွားရေးလုပ်ငန်း စတင်သော နှစ်အပါအဝင် တစ်ဆက်တည်း (၃) နှစ်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့် ပေးရမည်ဖြစ်ပါသည်။ ဥပဒေပုဒ်မ ၁၃ အရ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ အနက် လုပ်ငန်းနှင့် သက်ဆိုင်သည့် အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် ကော်မရှင်မှ သုံးသပ်ဆုံးဖြတ်ခဲ့ပါသည်။

၁၂။ ဆုံးဖြတ်ရန်အချက်။

(က) ရွှေငင်ရယ်မင်္ဂလာဒုံ ကျောက်စစ်အင်န်ကန်းထရီး ကလစ်ကုမ္ပဏီလီမိတက်တည်ထောင်၍ နိုင်ငံတကာအဆင့်မီ (၁၀) ကျင်းပါ ဂေါက်ကွင်းနှင့် အဆင့်မြင့်အိမ်ရာစီမံကိန်း ဆောင်ရွက်ခွင့်ပြုရန် သဘောတူ - မတူ။

(ခ) လုပ်ငန်းဆောင်ရွက်ရန် သဘောတူပါက မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် သဘောတူ - မတူ။

၁၃။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ထောက်ခံချက်။

အစိုးရအဖွဲ့၏ဆုံးဖြတ်ချက်ကို နာခံအပ်ပါသည်။

[ဗိုလ်မှူးချုပ် မောင်မောင်]
ဝန်ကြီး
နိုင်ငံတော်အေးချမ်းသာယာရေးနှင့်
ဖွံ့ဖြိုးရေးကောင်စီဥက္ကဋ္ဌရုံး
နှင့်
အတွင်းရေးမှူး
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်။

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့။

၇/၈၈ ကော်မရှင်
မှတ်တမ်း
(၉.၂.၈၈)



| စဉ် မှတ် စဉ် | ဆွေး နွေး ချက်နှင့်ညှိနှိုင်း ဆုံး ဖြတ်ချက် | ဆောင်ရွက် ရန် သိသာရန် |
|---|---|---|
| ၁ | ၂ | ၃ |
| ၁ | ရှင်ဂျယ်မင်္ဂလာဒုံ ဂေါဖ်အင်န်ကန်း တရုံး ကုသပ်ကုမ္ပဏီလီမိတက်တည် ထောင်နိုင်ငံကကာ ၁အဆင့်မီ ( ၁၈ )ကွင်း ပါ ဂေါက်ကွင်း နှင့်အဆင့်မြင့်အိမ်ယာ စီမံကိန်း ဆောင်ရွက်ရန်အဆိုပြုလွှာတင်ပြခြင်း ကိစ္စ။<br><br>ကော်မရှင်၏ ( ၃ - ၂ - ၈၈ ) ရက်စွဲပါစာအမှတ်၊ ရက - ၆ ( ခ ) ၈၄၄/၈၇ ( ၂၀၇၂ )။<br><br>တွဲဖက်အတွင်း ရေး မှူး ဦး မောင်မောင်ဝိုကအမှာစာ ရှင်း လင်း တင်ပြ ပါသည်။<br><br>ဒုတိယဝန်ကြီး ချုပ်၊ ဒုတိယ ဗိုလ်ချုပ်ကြီး မောင်မောင်ခင်က ဆောင်ရွက်မည့်လုပ်ငန်း များ တွင် phase အလိုက် မည်သို့ခွဲခြား ဆောင်ရွက်မည်ကို မေး မြန်း ရာ၊ အတွင်း ရေး မှူး ဝန်ကြီး ၊ ဗိုလ်မှူး ချုပ် မောင်မောင်က ပထမအဆင့်အနေဖြင့်လုံး ချင်း အိမ်ယာနှင့် ဂေါက်ကွင်း တည် ဆောက်ရန်ဖြစ်ပြီး တည် ဆောက် ရေး ကာလ ၂ နှစ်ဖြစ်ပါကြောင်း ၊ ဒုတိယအဆင့်အနေဖြင့်တင်း နစ်ကွင်း ရေကူး ကန်တို့ဖြစ်ရာ ယင်း တို့အတွက်တည် ဆောက် ရေး ကာလ ၂ နှစ် မလိုအပ်ဟုယူဆပါကြောင်း ၊ ပြော ကြား ပါသည်။<br><br>ဒုတိယဝန်ကြီး ချုပ်၊ ဒုတိယ ဗိုလ်ချုပ်ကြီး မောင်မောင်ခင်က တည် ဆောက် ရေး ကာလ ၂ နှစ်ကစပြီး ငှား ရမ်း ကာလစရန်ဖြစ် ကြောင်း ပြော ကြား ပါသည်။ | |

| အမှတ်စဉ် | ဆွေးနွေးချက်နှင့်ညှိနှိုင်းဆုံးဖြတ်ချက် | ဆောင်ရွက်ရန်<br>သိသာရန် |
|---|---|---|
| ၁ | ၂ | ၃ |
| | ဒုတိယဝန်ကြီးချုပ် ဒုတိယဗိုလ်ချုပ်ကြီး မောင်မောင်ခင်က လုံးချင်းအိမ်ယာများ ရောင်းရသည့်ငွေနှင့် ဧကန္တာမှထည့်ရမည့် share holder loan တို့မရောထွေးစေရန်အတွက်စာရင်းများ စနစ်တကျထားရှိရန်လိုကြောင်း၊ နိုင်ငံခြားသား (၁၀) ဦး ခန့်ထားရန်ကိစ္စများကြောင်း၊ တည်ဆောက်ရေးကာလတွင် (၆)ဦး တည်ဆောက်ရေးကာလပြီးပါက (၂) ဦးသာခန့်ထားရန်ဖြစ်ကြောင်း၊ ဂေါက်ကွင်းတည်ဆောက်ရေးအတွက် Excavator စုစုပေါင်း (၆) စီးတင်သွင်းခွင့်အယူက်တင်ပြထားကြောင်း Excavator (၃) စီးတင်သွင်းခွင့်ပြုရန်ဖြစ်ကြောင်း ပြောကြားပါသည်။<br><br>__ဆုံးဖြတ်ချက်။__<br><br>(၁) အဆိုပြုတင်ပြသည့်ကိစ္စအား ကော်မရှင်မှ မူအားဖြင့်သဘောတူသဖြင့်အစိုးရအဖွဲ့သို့ဆက်လက်တင်ပြရန်၊<br>(၂) နိုင်ငံခြားသား ပညာရှင်/ကျွမ်းကျင်သူများ ခန့်ထားမှုအတွက်တည်ဆောက်ရေးကာလတွင် (၆) ဦး နှင့်တည်ဆောက်ရေးကာလပြီးစီးပါက (၂) ဦး ခန့်ထားခွင့်ပြုရန်၊<br>(၃) Excavator (၃) စီးတင်သွင်းခွင့်ပြုရန်၊<br>(၄) လုပ်ငန်းနှင့်သက်ဆိုင်သည့်အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့်သက်သာခွင့်များ ခံစားခွင့်ပြုရန်၊ | အတွင်းရေးမှူး<br>ဆောက်လုပ်ရေးဝန်ကြီးဌာန |

လျှို့ဝှက်

ပြည်ထောင်စုမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ ရက-၆(ခ)/၁၄၄/၉၇(၂၀၅၂)။
ရက်စွဲ၊ ၁၉၉၀ ခုနှစ်၊ ဖေဖော်ဝါရီလ ၃ ရက်။

အမှာစာ

အကြောင်းအရာ။ ။ ရွှေရွှင်ရယ်မင်္ဂလာဒုံဂေါက်အင်န်ကန်းထရီးကလပ်ကုမ္ပဏီလီမိတက်ကသီးသန့်ပိုင်နိုင်ငံတကာအဆင့်မီ (၁၈) ကျင်းပါဂေါက်ကွင်းနှင့်အဆင့်မြင့်အိမ်ရာစီမံကိန်း ဆောင်ရွက်ရန်အဆိုပြုတင်ပြခြင်းကိစ္စ။

၁။ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန ( DHSHD ) နှင့် ဇေကဘာကုမ္ပဏီလီမိတက် ( Zaykabar Co., Ltd (ZKB) ) တို့ဖက်စပ်ပြုလုပ်ရွှေရွှင်ရယ်မင်္ဂလာဒုံဂေါက်အင်န်ကန်းထရီးကလပ်ကုမ္ပဏီလီမိတက် - ( Royal Mingalardon Golf & Country Club Co., Ltd.) ကသီးသန့်ပိုင်နိုင်ငံတကာအဆင့်မီ (၁၈) ကျင်းပါဂေါက်ကွင်းနှင့်အဆင့်မြင့်အိမ်ရာစီမံကိန်းကိုမြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ရန်အဆိုပြုတင်ပြလာပါသည်။ ယင်းအဆိုပြုချက်ကို (၃၀-၁-၉၀) နေ့တွင်ကျင်းပပြုလုပ်သည့်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၃/၉၀) ကြိမ်မြောက်အစည်းအဝေးသို့တင်ပြခဲ့ရာယင်းအစည်းအဝေးမှလုပ်ငန်း ဆောင်ရွက်ရန်သဘောတူပြီးအောက်ပါအတိုင်းဆုံးဖြတ်ခဲ့ပါသည်။

(၁) Suppliers' Credit စာချုပ်ကို ဇေကဘာကုမ္ပဏီနှင့်ချုပ်ဆိုရန်၊

(၂) ဘဏ်အာမခံကြေးငွေအဖြစ် ZKB ၏စုစုပေါင်းရင်းနှီးမြှုပ်နှံမှု၏ ၂% ကိုပေးသွင်းရန်၊

လျှို့ဝှက်

(၃) DHSHD မှ နောက်ထပ်အစုရှယ်ယာ ၁၀ % ဝယ်ယူခွင့်ကို မူရင်းတန်ဖိုး ( Par Value ) ဖြင့်ဝယ်ယူရန်၊

(၄) ဖက်စပ်ကုမ္ပဏီ၏ ဒါရိုက်တာအဖွဲ့တွင် DHSHD မှ (၃) ဦး နှင့် ZKB ဘက်မှ (၄) ဦး ဖြင့်ဖွဲ့စည်း ရန်နှင့်လုပ်ငန်း အကောင်အထည်ဖော်ရာတွင် Management Committee ဖွဲ့စည်း ဆောင်ရွက်ရန်။

အထက်ပါဆုံးဖြတ်ချက်နှင့်အညီပြန်လည်ပြင်ဆင်ပေးလာပါသဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အစည်းအဝေး သို့ဆက်လက်တင်ပြခြင်းဖြစ်ပါသည်။ အဆိုပြုချက်နှင့်အတူ ဖက်စပ်သဘောတူစာချုပ် ( မူကြမ်း )၊ မြေငှားသဘောတူစာချုပ် ( မူကြမ်း )၊ ရှေ့နေချုပ်ရုံး သဘောထားမှတ်ချက်၊ စက်ပစ္စည်း နှင့်ကုန်ကြမ်း ပစ္စည်း ဝယ်ယူရန် Suppliers' Credit စာချုပ် ( မူကြမ်း ) နှင့် ငွေရေး ကြေးရေး ဆိုင်ရာအကောက်အထား များကို နောက်ဆက်တွဲ ( ၁ ) တွင်တင်ပြထား ပါသည်။

၂။ ဤလုပ်ငန်း၏မတည်ငွေရင်း ပမာဏ၊ မတည်ငွေရင်း အချိုး အစား နှင့် ချေး ငွေပမာဏတို့မှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

| | မတည်ငွေရင်းပမာဏ (ကျပ်သန်း) | အချိုးအစား |
|---|---|---|
| - DHSHD | ၃.၀၀ | ၃၀ % |
| - ZKB | ၇.၀၀ | ၇၀ % |
| | ၁၀.၀၀ | |
| Interest Free Share-holder's Loan | | |
| - DHSHD | ၁၀၀၁.၀၀ | |
| - ZKB | ၂၃၃၅.၇၀ | |
| ဇောက္ကာကုမ္ပဏီလီမိတက် ချေးငွေ | | |
| - စက်ပစ္စည်း ကရိယာ | ၁၀.၈၄၈ ( US$ ၁.၈၀၈ သန်း ) | |
| - ကုန်ကြမ်း | ၁၉.၉၅၀ ( US$ ၃.၃၂၅ သန်း ) | |
| စုစုပေါင်း | ၃၃၇၇.၄၉၈ ( US$ ၅.၁၃၃ သန်း အပါအဝင် ) | |

၃။ ဤလုပ်ငန်းကို ဆောင်ရွက်ရန်အတွက် မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာနပိုင်မြေ (၂၈၆) ဧကအား မြေငှားရမ်းခအဖြစ် တစ်ဧကလျှင် ကျပ် (၃၅) သိန်းနှုန်းဖြင့် ကျပ် (၁၀၀၁) သန်းအား DHSHD မှ Interest Free Share-holders' Loan အဖြစ်လည်းကောင်း၊ ZKB မှ ကျပ် (၂၃၃၅.၇) သန်းကို Interest Free Share-holders' Loan အဖြစ်လည်းကောင်း သတ်မှတ်ထည့်ဝင်ထားခြင်းဖြစ်ပါသည်။ အမေရိကန်ဒေါ်လာ (၅.၁၃၃) သန်းတန်ဖိုးရှိ စက်ပစ္စည်းကိရိယာများနှင့် ကုန်ကြမ်းပစ္စည်းများကို ဖောက်သည်ကုမ္ပဏီလီမိတက်အနေဖြင့် စင်ကာပူနိုင်ငံ SWI Investment Pte Ltd မှSuppliers' Credit စနစ်ဖြင့် ဝယ်ယူမည်ဖြစ်ပါသည်။ အတိုးနှုန်းမှာ တစ်နှစ်လျှင် (၈) ရာခိုင်နှုန်းဖြစ်ပြီး၊ ဆိုင်းငံ့ကာလ (၃) နှစ်နှင့် (၅) နှစ်အတွင်း ပြန်လည်ပေးဆပ်ရမည်ဖြစ်ပါသည်။

၄။ ဤလုပ်ငန်းကို ဆောင်ရွက်ရန်အတွက် မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနပိုင် မင်္ဂလာဒုံမြို့နယ်၊ အမှတ် (၃) လမ်းမကြီး အရှေ့ဖက်၊ မြေကွက်အမှတ် (၅၃၄ ဘီ) ရှိ မြေ (၂၈၆) ဧက (၁၁၅၇၄၈၁.၉ စတုရန်းမီတာ) ပေါ်တွင် နိုင်ငံတကာအဆင့်မီ (၁၈) ကျင်း ဂေါက်ကွင်း၊ တင်းနစ်ကွင်း၊ ရေကူးကန်နှင့် အဆင့်မြင့်လုံးချင်းအိမ် (၁၀၀) လုံး တည်ဆောက်ခြင်းလုပ်ငန်းများကို ဆောင်ရွက်မည်ဖြစ်ပါသည်။

၅။ မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာနနှင့် ZKB တို့ချုပ်ဆိုမည့် ဖက်စပ်သဘောတူစာချုပ် (မူကြမ်း) နှင့် မြေငှားသဘောတူစာချုပ် (မူကြမ်း) တို့တွင် ပါဝင်သော အဓိကအချက်များမှာ အောက်ပါအတိုင်းဖြစ်ပါသည်။

- မြေငှားရမ်းကာလမှာ လုံးချင်းအိမ်ရာဝယ်ယူသူများအား နှစ် (၆၀) ဂရံထုတ်ပေး၍ ဂေါက်ကွင်းနှင့်ဆက်စပ်လုပ်ငန်းများအတွက် ကနဦးနှစ် (၃၀) နှင့် နောက်ထပ် (၅) နှစ် (၄) ကြိမ်တိုးမြှင့်ခွင့်ဖြစ်ပါသည်။
- တည်ဆောက်မှုကာလ (၄) နှစ်အတွင်း ပထမနှစ်နှင့် ဒုတိယနှစ်တို့တွင် (၁၈) ကျင်း ဂေါက်ကွင်းနှင့် အဆင့်မြင့်လုံးချင်းအိမ်ရာ (၁၀၀) လုံး ပြီးစီးရမည်ဖြစ်ပြီး၊ တတိယနှစ်နှင့် စတုတ္ထနှစ်တို့တွင် ရေကူးကန်နှင့် တင်းနစ်ကွင်းတို့ပြီးစီးရမည်ဖြစ်ပါသည်။

- DHSHD ပိုင်ဆိုင်သည့် မြေ (၂၀၆) ဧကအား တစ်ဧကလျှင် မြေငှားရမ်းခ ကျပ် (၃၅) သိန်းနှုန်းဖြင့် ကျပ် (၁၀၀၁) သိန်းကို စီမံကိန်းတန်ဖိုး၏ (၃၀) ရာခိုင်နှုန်း အဖြစ်လည်းကောင်း၊ ZKB သည် စီမံကိန်းတန်ဖိုး၏ (၇၀) ရာခိုင်နှုန်းဖြစ်သော ကျပ် (၂၃၃၅.၇) သိန်းကိုလည်းကောင်း ထည့်ဝင်ကြမည်ဖြစ်ပါသည်။

- စီမံကိန်းလုပ်ငန်း ကုန်ကျစရိတ်သည် စီမံကိန်းလုပ်ငန်း တန်ဘိုးစုစုပေါင်း၏ (၇၀) ရာခိုင်နှုန်းထက် လျော့နည်းပါက ZKB သည် အဆိုပါ လျော့နည်းငွေကို ဖက်စပ်ကုမ္ပဏီသို့ ပေးသွင်းရမည်ဖြစ်ပြီး အဆိုပါ ပေးသွင်းသည့်ငွေကို DHSHD နှင့် ZKB တို့သည် ယင်းတို့၏ အစုရှယ်ယာအချိုးများအရ ပိုင်ဆိုင်ခွင့်ရှိစေရမည်ဖြစ်ပါသည်။

- စီမံကိန်းလုပ်ငန်းကုန်ကျစရိတ်သည် စီမံကိန်းလုပ်ငန်းတန်ဘိုး စုစုပေါင်း၏ (၇၀) ရာခိုင်နှုန်းထက် ပိုမိုပါက အဆိုပါ ပိုမိုကုန်ကျငွေ အတွက်ဘဏ်မှ ချေးယူရန် ZKB မှ တာဝန်ယူရမည်ဖြစ်ပြီး ၊ ဖက်စပ်ကုမ္ပဏီပိုင်ငွေအနေဖြင့် အရင်းရော အတိုးကိုပါ ပြန်လည်ပေးဆပ်ရမည်ဖြစ်ပါသည်။

- လုပ်ငန်းစတင်ဆောင်ရွက်ပြီး (၁၀) နှစ်အကွင်း DHSHD သည် နောက်ထပ်အစုရှယ်ယာ ၁၀ % ကို မူရင်းတန်ဖိုး (Parvalue) ဖြင့် ဝယ်ယူခွင့်ရှိမည်ဖြစ်ပါသည်။

- ZKB အနေဖြင့် ဖက်စပ်ကုမ္ပဏီသို့ ထည့်ဝင်ရမည့် စီမံကိန်းလုပ်ငန်း တန်ဘိုး ငွေပမာဏ၏ (၇၀) ရာခိုင်နှုန်းနှင့်ညီမျှသော ငွေပမာဏ ပြည့်မီစွာ ထည့်ဝင်နိုင်ရန်အတွက် ချေးငွေအဖြစ် ရယူပါက ယင်းချေးငွေနှင့်အတိုးများကို ပေးဆပ်ရန်မှာ ZKB ၏ တာဝန်သာဖြစ်ပြီး ဖက်စပ်ကုမ္ပဏီနှင့် ပတ်သက်မှုမရှိစေရန်ဖြစ်ပါသည်။

- ဖက်စပ်ကုမ္ပဏီကို DHSHD ဖက်မှ ဒါရိုက်တာ (၃) ဦး နှင့် ZKB ဖက်မှ ဒါရိုက်တာ (၄) ဦး ပါဝင်သော ဒါရိုက်တာအဖွဲ့တွင် ပထမဘဏ္ဍာရေး နှစ်၌ ဥက္ကဋ္ဌအဖြစ် DHSHD ဖက်မှ ဆောင်ရွက်ပြီး နောက်ပိုင်း နှစ်များတွင် DHSHD နှင့် ZKB တို့မှ တစ်နှစ်စီခြားလျက် တာဝန်ယူရမည်ဖြစ်ပါသည်။

- ၁၉၈၇ ခုနှစ်၊ မရွှေမပြောင်းနိုင်သော ပစ္စည်းလွှဲပြောင်းခြင်းကိုကန့်သတ်သည့် ဥပဒေပုဒ်မ- ၃ အရ လုံးချင်းအိမ်ရာများကို နိုင်ငံခြားသား (သို့) နိုင်ငံခြားကုမ္ပဏီများသို့ ရောင်းချခွင့် မရှိသဖြင့် ဖက်စပ်ကုမ္ပဏီနှင့်သက်ဆိုင်ရာ နိုင်ငံခြား (သို့) နိုင်ငံခြားကုမ္ပဏီတို့ စာချုပ်ချုပ်ဆို၍ ငှားရမ်းအသုံးပြုခွင့်ကိုသာ ခွင့်ပြုမည်ဖြစ်ပါသည်။

- ဖက်စပ်ကုမ္ပဏီအနေဖြင့်လုံးချင်းအိမ်ရာများ ဆောက်လုပ်ပြီးစီး၍ ရောင်းချသည့်အိမ်ရာများကို ဝယ်ယူသူအမည်ဖြင့် နှစ် (၆၀) ဂရံ ထုတ်ပေးရန်နှင့် ဂေါက်ကွင်း၊ ရေကူးကန်၊ တင်းနစ်ကွင်းနှင့် လူမှုရေးအဆောက်အဦများကို ကုမ္ပဏီအမည်ဖြင့် နှစ် (၃၀) ဂရံနှင့် (၅) နှစ် (၄) ကြိမ်တိုးမြှင့်ခွင့်ကို DHSHD နှင့်ညှိနှိုင်း ဆောင်ရွက်ရမည်ဖြစ်ပါသည်။

- မြေငှားကာလကုန်ဆုံးပြီး (၃) လအတွင်း မြေနှင့်တကွ မရွှေမပြောင်းနိုင်သည့်ပစ္စည်းများကို DHSHD အား ဖက်စပ်ကုမ္ပဏီမှ အဖိုးစားနားမဲ့ပြန်လည်လွှဲပြောင်းပေးရမည်ဖြစ်ပြီး ဆက်လက်လုပ်ကိုင်ဆောင်ရွက်ခြင်းပြုလိုပါက DHSHD နှင့်စာချုပ်အသစ်ပြုလုပ်၍ ကော်မရှင်၏အတည်ပြုချက်ရယူကာ ဆောင်ရွက်ရမည်ဖြစ်ပါသည်။

- လုံးချင်းအိမ်များတွင် နေထိုင်သူ (သို့) နေထိုင်ခွင့်ရရှိသူများသည် ၎င်းတို့ရရှိသည့်ဂရံသက်တမ်းကုန်ဆုံးပြီး နောက်ဆက်လက်နေထိုင်ခွင့်ရရှိရန်အတွက် မြေငှားကာလတိုးမြှင့်ခွင့်ပြုရန် DHSHD သို့လျှောက်ထားရမည်ဖြစ်ပါသည်။

- ဘဏ်အာမခံကြေးအဖြစ် စီမံကိန်းတန်ဖိုး၏ ၂ ရာခိုင်နှုန်းနှင့်ညီမျှသောငွေကျပ် (၂၃၃၅.၅)သန်း၏ ၂ ရာခိုင်နှုန်းဖြစ်သောကျပ် (၄၆.၇)သန်းကို DHSHD သဘောတူသည့်ဘဏ်တွင် စာချုပ်လက်မှတ်ရေးထိုးသည့်နေ့မှရက်ပေါင်း (၃၀) အတွင်း ထားရှိပေးရမည်ဖြစ်ပါသည်။

၆။ ဤလုပ်ငန်း မှလုံး ချင်း အိမ် (၁၀၀) လုံး ၊ (၁၈) ကျင်း ပါဂေါက်ကွင်း ၊ တင်း နစ်ကွင်း ၊ ရေကူး ကန်တို့နှင့်ပတ်သက် သောအ ဆောက်အဦများ ဆောက်လုပ်မည်ဖြစ်ပါသည်။ လုံး ချင်း အိမ်များ ကို (၂) နှစ်အတွင်း ရောင်း ချမည်ဖြစ်ပြီး လုံး ချင်း အိမ်တစ်လုံး လျှင်ကျပ်သိန်း (၃၈၈) ဖြင့် ရောင်း ချမည်ဖြစ်ပါသည်။ (၁၈) ကျင်း ပါဂေါက်ကွင်း ၏အသင်း ဝင် ကြေး မှာ နိုင်ငံခြား ငွေဖြင့် US$ ၅၀၀၈ ဖြင့် လည်း ကောင်း ၊ ကျပ် ငွေဖြင့်ကျပ် ၅သိန်း ဖြင့်လည်း ကောင်း ၊ လစဉ် ကြေး မှာ နိုင်ငံခြား ငွေဖြင့် US$ ၅၀ နှုန်း နှင့်ကျပ် ငွေဖြင့်ကျပ် (၄၀၀၀) နှုန်း နှင့်အသင်း ဝင် မဟုတ်သူများ က ရင်း ကြေး အဖြစ်တစ် နေ့လျှင်နိုင်ငံခြား ငွေဖြင့် US$ ၅၀ နှုန်း နှင့်ကျပ် ငွေဖြင့်ကျပ် (၂၀၀၀)နှုန်း ဖြစ်ပါသည်။

၇။ ဤလုပ်ငန်း ကို ဆောင် ရွက်ခြင်း ဖြင့်ဖက်စပ်ကုမ္ပဏီမှ ပုံမှန် နှစ်တွင် ရရှိမည့်ဝင် ငွေနှင့်အသုံး စရိတ်ခန့်မှန်း ခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

(ကျပ်သန်း )

| | ပြည်တွင်း | နိုင်ငံခြား | စုစုပေါင်း |
|---|---|---|---|
| (က)- ဝင် ငွေ | ၂၉၀.၄၇ | ၅၅.၀၀ | ၃၁၅.၄၇ |
| (ခ) အသုံး စရိတ် | ၂၁၇.၁၂ | ၆.၉၂ | ၂၂၄.၀၄ |
| (ဂ) အသားတင်အမြတ် | ၇၃.၃၅ | ၁၈.၀၀ | ၉၁.၄၃ |

၈။ ဤလုပ်ငန်း ကို ဆောင် ရွက်ခြင်း ဖြင့်နိုင်ငံ တော်မှ ပုံမှန် နှစ်တွင်ရရှိမည့်အကျိုး အမြတ်ခန့်မှန်း ခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

| | |
|---|---|
| (က) ဝင် ငွေခွန် (ကျပ်သန်း ) | ၃၁.၄၄ |
| (အ မေရိကန် ဒေါ်လာသန်း ) | ၀.၅၃ |
| (ခ) ကုန်သွယ်လုပ်ငန်း ခွန် (ကျပ်သန်း ) | ၁၆.၈၈ |
| (အ မေရိကန် ဒေါ်လာသန်း ) | ၈.၂၀ |
| (ဂ) DHSHD ၏အမြတ်ဝေစု (ကျပ်သန်း ) | ၂၂.၀၁ |
| (အ မေရိကန် ဒေါ်လာသန်း ) | ၀.၉၀ |

၉။ ဤလုပ်ငန်းကို ဆောင်ရွက်ရန်ပြည်တွင်း မှအမြဲတမ်း ဝန်ထမ်း (၃၆၂)ဦး၊ နေ့စား ဝန်ထမ်း (၃၀၀)ဦး နှင့်နိုင်ငံခြားသား ပညာရှင် (၁၀)ဦး ခန့်ထား ဆောင်ရွက်မည်ဖြစ်ပါသည်။

၁၀။ ဤလုပ်ငန်း ဆောင်ရွက်ရန် ငွေရေး ကြေးရေး အထောက်အထား အဖြစ် ZKB ၏ (၁၉၉၅-၉၆) ခုနှစ်ဘဏ္ဍာရေး နှစ်ချုပ်စာရင်း ကိုတင်ပြထား ပါသည်။

၁၁။ ဤလုပ်ငန်း ဆောင်ရွက်ရန် မော်တော်ယာဉ်တင်သွင်း ခွင့်နှင့် စပ်လျဉ်း၍လုပ်ငန်း တည်ဆောက်မှုကာလအတွင်း Saloon (၁) စီး၊ Pick-up(၁) စီး၊ နှင့် Mini Bus (၁) စီး တို့ကိုအခွန်အကောက်ကင်း လွတ်ခွင့်ဖြင့်လည်း ကောင်း လုပ်ငန်း စတင် ဆောင်ရွက်ချိန်တွင် Saloon (၁) စီး၊ Pick-up (၁) စီး နှင့် Mini Bus (၁) စီး တို့ကိုအခွန်အကောက် (၅၀) ရာခိုင်နှုန်း သက်သာခွင့်ဖြင့် လည်းကောင်းတင်သွင်း ခွင့်ပြုရန်နှင့်တင်သွင်း မည့်စက်ပစ္စည်း စာရင်း တွင် Buggi Golf Car အစီး (၂၀)၊ 10 Ton Tipper Truck (၁၀) စီး၊ Air Conditioner 1 H.P (၁၇၅)လုံး၊ 1.5 H.P (၁၇၅)လုံး၊ Road Roller (၂) စီး တို့ကိုတင်သွင်း ခွင့်ပြုရန်နှင့် Game Machine နှင့် Golf equipment and accessories - ကိုခွင့်မပြုကြောင်း မြန်မာနိုင်ငံရင်း နှီး မြှုပ်နှံမှုကော်မရှင်၏ (၃/၉၇)ကြိမ် မြောက်ကြိုတင်ညှိနှိုင်း အစည်း အဝေး မှဆုံး ဖြတ်ခဲ့ပါသည်။

၁၂။ ဤလုပ်ငန်း ကို ဆောင်ရွက်ရာတွင်နိုင်ငံခြား မှ မသိသူမှုပိုင်ဆိုင် မှုမရှိပါကြောင်း၊ ပတ်ဝန်း ကျင်ညစ်ညမ်း မှုမဖြစ်ပွား စေရန်ကြိုတင်ကာကွယ်မှု များ ပြုလုပ်ထား မည်ဖြစ် ကြောင်း နှင့် ချေး ငွေကိုပြန်လည် ပေး ဆပ်ရာတွင်အဆိုပြု လုပ်ငန်း မှတရား ဝင်ရရှိသည့်နိုင်ငံခြား သုံး ငွေဖြင့်သာပြန်လည် ပေး ဆပ်မည် ဖြစ် ကြောင်း ကတိဝန်ခံချက် ပေး ထား ပါသည်။

၁၃။ မြန်မာနိုင်ငံသား များ ရင်း နှီး မြှုပ်နှံမှုဥပဒေပုဒ်မ-၁၂ နှင့်၁၃ပါအခွန်ဆိုင်ရာကင်း လွတ်ခွင့်နှင့်သက်သာခွင့်များ ကိုခံစား ခွင့်ပြုရန် လျှောက်ထား လာပါသည်။ ဥပဒေပုဒ်မ၁၂အရ၊ စီး ပွား ရေး လုပ်ငန်း စတင်

ယခုနှစ်အပါအဝင်တစ်ဆက်တည်း (၃) နှစ်အတွက်ဝင်ငွေခွန်ကင်းလွတ်ခွင့်ပေးရမည်ဖြစ်ပါသည်။ ဥပဒေပုဒ်မ ၁၃ အရ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကိုတောင်းခံထားရာ ယင်းအပေါ်သုံးသပ်တင်ပြချက်ကို ပူးတွဲ တင်ပြအပ်ပါသည်။

၁၄။ သုံးသပ်ဖြတ်ရန်အချက်

(က) ရွိုင်ရယ်မလ်ဘုံဂျိဖ်အင်န်ကာန်း ထရိုးကလပ်ကုမ္ပဏီလီမိတက်တည်ထောင်၍ နိုင်ငံတကာအဆင့်မီ (၁၈) ကျင်းပါ ဂေါက်ကွင်းနှင့်အဆင့်မြင့်အိမ်ရာစီမံကိန်း ဆောင်ရွက်ခွင့်ပြုရန်သဘောတူ - မတူ။

(ခ) သဘောတူပါက အထက်အပိုဒ် (၁၃) ပါအခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကိုခံစားခွင့်ပြုရန်သဘောတူ - မတူ။

အတွင်းရေးမှူး (ကိုယ်စား)
(မောင်မောင်ရီ၊ တွဲဖက်အတွင်းရေးမှူး)။

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်။



* ၅၆/၂/၉၀။

မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၃ အရ အခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များရရှိရေး အတွက် လျှောက်ထားချက်အပေါ် အောက်ပါအတိုင်း သုံးသပ်တင်ပြပါသည်။

- ဥပဒေပုဒ်မ (၁၃) (က) အရလုပ်ငန်း၏ရင်းနှီးမြှုပ်နှံမှုတွင်၊ ပါဝင်သောနိုင်ငံခြားငွေပမာဏအပေါ် မူတည်၍ ဝင်ငွေခွန်သက်သာခွင့်နှင့်ပတ်သက်၍ ကနဦးရင်းနှီးမြှုပ်နှံမှုကာလအတွင်းနိုင်ငံခြားငွေဖြင့်ရင်းနှီးမြှုပ်နှံသည့်ပမာဏကို ဖော်ပြလျက် ကော်မရှင်သို့ - လျှောက်ထားလာသည့်အခါစဉ်းစားခွင့်ပြုသင့်ပါသည်။
- ဥပဒေပုဒ်မ ၁၃ (ဂ) အရဝန်ဆောင်မှုလုပ်ငန်းကြောင့်ပြည်တွင်း ပြည်ပဝင်ငွေတိုးတက်မှုရှိပါကသတ်မှတ်ချက်နှင့်ညီသောဝင်ငွေခွန် သက်သာခွင့်ကိုလုပ်ငန်းအကောင်အထည်ဖော်မှုအရ လျှောက်ထားလာသည့်အခါစဉ်းစားခွင့်ပြုသင့်ပါသည်။
- ဥပဒေပုဒ်မ ၁၃ (ဃ) အရဝန်ဆောင်မှုလုပ်ငန်းအဖြစ် အကျိုးအမြတ်နည်းသည့်လုပ်ငန်းအပေါ်သင့်လျော်သောကာလ အထိ ဝင်ငွေခွန်သက်သာခွင့်တောင်းခံခြင်းကိုအကျုံးဝင်ခြင်း မရှိဟု သုံးသပ်ရပါသည်။
- ဥပဒေပုဒ်မ ၁၃ (စ) အရလုပ်ငန်းမှရရှိသည့်အမြတ်ငွေကိုတစ်နှစ်အတွင်းပြန်လည်ရင်းနှီးမြှုပ်နှံပါကထိုအမြတ်ငွေပေါ်တွင်ဝင်ငွေခွန် ကင်းလွတ်ခွင့်သို့မဟုတ်သက်သာခွင့်ကိုအမှန်တကယ်ပြန်လည်ရင်းနှီးမြှုပ်နှံမှုပြုသည့်အခါလျှောက်ထားလာပါကခွင့်ပြုသင့်ပါသည်။
- ဥပဒေပုဒ်မ ၁၃ (ဆ) အရလုပ်ငန်းသုံး မတည်ပစ္စည်းများ - အပေါ်တန်ဖိုး လျော့ငွေကိုသတ်မှတ်သည့်နှုန်း အတိုင်း နှစ်တိုတို နှင့်မူလတန်ဖိုး ပြည့်မီသည်အထိအမြတ်ငွေမှနုတ်ပယ်ခွင့်နှင့်ပတ်သက်၍ လျှောက်ထား လာသည့်အခါကော်မရှင်မှသတ်မှတ်သည့် နှုန်းအတိုင်း ခွင့်ပြုသင့်ပါသည်။
- ဥပဒေပုဒ်မ ၁၃ (ဇ) အရကနဦး ရင်း နှီး မြှုပ်နှံမှု ကာလ အတွင်း တင်သွင်း လာသည့်စက်ပစ္စည်း များ နှင့် ဆောက်လုပ်ရေး ပစ္စည်း များ အပေါ် အကောက်ခွန်နှင့်အခြား ပြည်တွင်း အခွန် အကောက်များ ကင်း လွတ်ခွင့်ပြုသင့်ပါသည်။

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ

ဆောက်လုပ်ရေးဝန်ကြီးဌာန

စာအမှတ်၊ ၂၅/ဆွဲ-၇/၉၇ (ဗီ ၃၆၄ )

ရက်စွဲ ၊ ၁၉၉၇ ခုနှစ်၊ ဖေဖော်ဝါရီလ ၃ ရက်

သို့



ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရန်ကုန်မြို့

အကြောင်းအရာ။ **Royal Mingalardon Golf & Country Club Co., Ltd. တည်ထောင်၍ မင်္ဂလာဒုံမြို့နယ်တွင် နိုင်ငံတကာအဆင့်မီ ဂေါက်ကွင်းနှင့်အဆင့်မြင့်အိမ်ရာစီမံကိန်းလုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန်အဆိုပြုချက် (ပြင်ဆင်) တင်ပြခြင်း**

ရည်ညွှန်းချက်။ ၁၉၉၇ ခုနှစ်၊ ဇန်နဝါရီလ ၃၀ ရက်နေ့တွင် ကျင်းပပြုလုပ်သည့်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၃/၉၇) ကြိမ်မြောက်ကြိုတင်ညှိနှိုင်းအစည်းအဝေးမှလမ်းညွှန်ချက်

၁။ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ပြနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနနှင့်မြန်မာနိုင်ငံသားပိုင် ဇောကမ္ဘာကုမ္ပဏီလီမိတက်တို့အကျိုးတူပူးပေါင်း၍ Royal Mingalardon Golf & Country Club Co.,Ltd အမည်ဖြင့်ဖက်စပ်ကုမ္ပဏီဖွဲ့စည်းတည်ထောင်ပြီး မင်္ဂလာဒုံမြို့နယ်တွင်နိုင်ငံတကာအဆင့်မီ ဂေါက်ကွင်းနှင့်အဆင့်မြင့်အိမ်ရာစီမံကိန်းဆောင်ရွက်ခွင့်ပြုပါရန်၊ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့အဆိုပြုတင်ပြခဲ့ပါသည်။

၂။ အထက်ပါအဆိုပြုတင်ပြချက်နှင့်ပတ်သက်၍ (၁၉၉၇ ခုနှစ်၊ ဇန်နဝါရီလ ၃၀ ရက်) နေ့တွင်ကျင်းပခဲ့သောမြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၃/၉၇) ကြိမ်မြောက်ကြိုတင်ညှိနှိုင်းအစည်းအဝေးလမ်းညွှန်ချက်အရ၊ အောက်ပါအချက်အလက်များကိုပြင်ဆင်၍ပြန်လည်တင်ပြအပ်ပါသည်–

(က) ဇေကမ္ဘာကုမ္ပဏီအနေဖြင့် မိမိ၏အစုရှယ်ယာ ၇၀ % ထည့်ဝင်မှုအတွက်လိုအပ်ပါက မိမိအစီအစဉ်ဖြင့် ချေးငွေရယူရန်နှင့် ဖက်စပ်ကုမ္ပဏီအနေဖြင့် ချေးငွေရယူခြင်း မပြုရန်၊

(ခ) တည်ဆောက်မှုကုန်ကျစရိတ်၏ ၂ % ကို Performance Bank Guarantee အဖြစ်ထားရှိပေးရန်၊

(ဂ) မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန၏ အစုရှယ်ယာ ၁၀ % ဝယ်ယူခွင့်အတွက် Par Value ဖြင့်ဝယ်ယူခွင့်ပြုရန်၊

(ဃ) အမြတ်ငွေခွဲဝေပါက ရရှိသည့်မြန်မာကျပ်ငွေနှင့် နိုင်ငံခြားငွေအသီးသီးတို့အပေါ်တွင်အစုရှယ်ယာ အချိုးအတိုင်း ခွဲဝေရန်၊

(င) စာချုပ်ရပ်စဲ၍ (သို့မဟုတ်) မြေငှားရမ်းကာလ ကုန်ဆုံး၍ မြေနှင့်မရွှေ့မပြောင်းနိုင်သည့်ပစ္စည်းများအား ပြန်လည်လွှဲပြောင်းပေးသည့်အခါအတိုးစားနားမဲ့ပြန်လည်လွှဲပြောင်းပေးရန်၊

၃။ သို့ပါ၍ပြင်ဆင်ထားသည့်လုပ်ငန်းအဆိုပြုချက်(၃၅)စုံကိုလိုအပ်သလို ဆောင်ရွက်နိုင်ပါရန်ပူးတွဲပေးပို့အပ်ပါသည်။

ဝန်ကြီး ( ကိုယ်စား )
(မင်းသိမ်း၊ ရုံးအဖွဲ့မှူး )

မိတ္တူကို -

- ညွှန်ကြားရေးမှူးချုပ်၊
မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန။

အေး/

(၃၀.၁.၉၈) ၇/၉၈ ကို/ဆို မှတ်တမ်းဖုံးဖြစ်ချ



| အမှတ်စဉ် | ဆွေးနွေးချက်နှင့်သုံးသပ်ချက်ဆုံးဖြတ်ချက် | ဆောင်ရွက်ရန်<br>သိသာရန် |
| --- | --- | --- |
| ၁ | ၂ | ၃ |
| ၄။ | ရွိုင်ရယ်မင်္ဂလာဒုံ ဂေါက်အင်န်ကန်းထရီး ကလပ်ကုမ္ပဏီလီမိတက် (Royal Mingaladon Golf & Country Club Co., Ltd.) တည်ထောင်၍ နိုင်ငံတကာအဆင့်မီ ဂေါက်ကွင်း၊ တင်းနစ်ကွင်း၊ ရေကူးကန်အဆင့်မြင့် လုံးချင်းအိမ်ရာစီမံကိန်း လုပ်ငန်း ဆောင်ရွက်ရန်အဆိုပြုတင်ပြခြင်းကိစ္စ။<br><br>တွဲဖက်အတွင်းရေးမှူး ဦးမောင်မောင်ရီက ရွိုင်ရယ်မင်္ဂလာဒုံ ဂေါက်အင်န်ကန်းထရီး ကလပ်ကုမ္ပဏီလီမိတက်တည် ထောင်၍နိုင်ငံတကာအဆင့်မီ ဂေါက်ကွင်း၊ တင်းနစ်ကွင်း၊ ရေကူးကန်၊ အဆင့်မြင့်လုံးချင်း အိမ်ရာစီမံကိန်း လုပ်ငန်း ဆောင်ရွက်ရန်အဆိုပြုတင်ပြချက်၏အဓိကအချက်အလက်များကို ရှင်းလင်းတင်ပြပါသည်။<br><br>ဒုတိယဝန်ကြီးချုပ်၊ ဒုတိယဗိုလ်ချုပ်ကြီးမောင်မောင်ခင်က လုံးချင်းအိမ်ရာများကို ဆောက်လုပ်ပြီး စီး၍ ရောင်းချသည့်အခါ မြန်မာနိုင်ငံသားများကိုသာ ရောင်းချရမည်ဖြစ်ပြီး ဝယ်ယူသူအမည်ဖြင့်နှစ် ၆၀ဂရံ ထုတ်ပေးရမည်ဖြစ်ကြောင်း၊ နိုင်ငံခြားသားများကို ရောင်းချခွင့်မရှိကြောင်း၊ နိုင်ငံခြားသားများကိုငှားရမ်းရာတွင် စာချုပ်ချုပ်ဆို၍တစ်နှစ်သာခွင့်ပြုမှာဖြစ်ကြောင်း၊ နိုင်ငံခြားမှ ချေးငွေရယူပြီး ယင်းချေးငွေနှင့်အတိုး ကိုပေးဆပ်ရန် ဇောတ္တာ ကုမ္ပဏီ၏တာဝန်သာဖြစ်သည်ကိုစာချုပ်တွင်ထည့်သင့်ကြောင်း ပြောကြားပါသည်။<br><br>ဆက်လက်၍ ဒုတိယဗိုလ်ချုပ်ကြီး မောင်မောင်ခင်က စက်ပစ္စည်းစာရင်းတွင် Game Machine - (၁၀)လုံး တင်ပြထားသည်ကိုခွင့်မပြုနိုင်ကြောင်း၊ တည်ဆောက်မှုကာလမှာ (၄) နှစ်ကြာမြင့်မည်ဖြစ်ပြောင်းလက်ရှိအနေအထား အရတည်ဆောက်မှုလုပ်ငန်း မှာများနေပြီဖြစ်၍နောင်တင်ပြလာမည့်တည်ဆောက်ရေးကိစ္စများကိုစိစိစစ်စစ်လုပ် သွားရန်လိုကြောင်း ပြောကြားပါသည်။ | |

| အမှတ်စဉ် | ဆွေးနွေးချက်နှင့်သုံးသပ်ဆုံးဖြတ်ချက် | ဆောင်ရွက်ရန်<br>သိသာရန် |
| --- | --- | --- |
| ၁ | ၂ | ၃ |
| | မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန၊ ညွှန်ကြားရေးမှူးချုပ်ဦးအုံးကျော်ကယခုတင်ပြသည့်လုပ်ငန်းစီမံကိန်းမှာအတည်ပြုပြီးသောစီမံကိန်းတစ်ခုဖြစ်ပါကြောင်း၊ ယင်းစီမံကိန်းကိုတင်ပြနိုင်ရေးအတွက် (၈) လကြာမြင့်ခဲ့ပါကြောင်း၊ ပထမအဆင့်အနေဖြင့် ၁၀ ကျင်းပါဂေါက်ကွင်းကိုစတင်ဆောင်ရွက်မှာဖြစ်ပါကြောင်း တင်ပြပါသည်။<br><br>ဒုတိယဝန်ကြီးချုပ် ဒုတိယဗိုလ်ချုပ်ကြီး မောင်မောင်ခင်က လုံးချင်းအိမ်ရာအလုံး (၁၀၀) တည်ဆောက်မည်ဖြစ်ရာ ဝယ်ယူမည့်အင်အားရှိ-မရှိသိလိုကြောင်း၊ ဘဏ်ချေးငွေပါလာလျှင်ဘဏ်များမှလည်း ဝန်ထုပ်ဝန်ပိုးဖြစ်နေမည်ဖြစ်ကြောင်း ပြောကြားပါသည်။<br><br>မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန၊ ညွှန်ကြားရေးမှူးချုပ်ဦးအုံးကျော်က ယုဇနဆောက်လုပ်ရေးအဖွဲ့မှအိမ်ခန်းပေါင်း ၄၀၀၀ ကျော်ခန့် ရောင်းချနိုင်ခဲ့ပါကြောင်း၊ ဇေကဗ္ဗာမှအခြားစီမံကိန်းတစ်ခုတွင်တည်ဆောက်ပြီးစီးခဲ့သည့်လုံးချင်းအိမ်ရာ (၂) လုံးကိုကျပ်သိန်း ၄၅၀ စီဖြင့် ရောင်းချနိုင်ခဲ့ပါကြောင်း၊ နောက်ပိုင်းတွင်ငှားရမ်းမှုပါ၊ ပါလာနိုင်ကြောင်း တင်ပြပါသည်။<br><br>ဒုတိယဝန်ကြီးချုပ်၊ ဒုတိယဗိုလ်ချုပ်ကြီးမောင်မောင်ခင်က မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနမှ ကနဦးထည့်ဝင်ရမည့်ငွေကျပ်သိန်း ၃၀ ကို ဇေကဗ္ဗာကုမ္ပဏီက free equity အဖြစ်ထည့်ပေးရမှာဖြစ်ကြောင်း၊ မော်တော်ယာဉ်တင်သွင်းမှုနှင့်ပတ်သက်၍ လုပ်ငန်းတည်ဆောက်မှုကာလအတွက် Saloon (တစ်) စီး၊ Pick-up (တစ်) စီး နှင့် Mini-bus (တစ်) စီး တို့ကိုအခွန်အကောက်ကင်းလွတ်ခွင့်ဖြင့်လည်းကောင်း၊ လုပ်ငန်းဆောင်ရွက်မှုကာလအတွက် Saloon (တစ်) စီး၊ Pick-up (တစ်) စီး နှင့် Mini-bus (တစ်) စီး တို့ကိုအခွန်အကောက် ၅၀ % သက်သာခွင့်ဖြင့်လည်းကောင်း တင်သွင်းခွင့်ပြုရန်ဖြစ်ကြောင်း၊ စက်ပစ္စည်း | |

| အမှတ်စဉ် | ဆွေးနွေးချက်နှင့်ညှိနှိုင်းဆုံးဖြတ်ချက် | ဆောင်ရွက်ရန် သိသာရန် |
|---|---|---|
| ၁ | ၂ | ၃ |
| | စာရင်းတွင် Buggie Golf Car အစီး (၂၀)၊ Tipper Truck (၁၀) စီး၊ Air Conditioner 1 HP (၁၇၅) လုံး၊ 1.5 HP (၁၇၅) လုံး၊ Road Roller (၂) စီးတို့ကိုတင်သွင်းခွင့်ပြုကြောင်း၊ Game Machine (၁၀) လုံး နှင့် Golf Equipment and Accessories ကိုခွင့်မပြုကြောင်း ပြောကြားပါသည်။<br><br>ဆက်လက်၍ ဒုတိယဗိုလ်ချုပ်ကြီးမောင်မောင်ခင်က မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနမှ နောက်ထပ်အစုရှယ်ယာ ၁၀% ဝယ်ယူခွင့်ပြုရာတွင် at par value ဖြင့်ဝယ်ယူခွင့်ပြုသင့်ကြောင်း၊ ဖက်စပ်ကုမ္ပဏီကိုမြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနမှ ဒါရိုက်တာ (၃) ဦးနှင့် ဧကဿာကုမ္ပဏီဖက်မှ ဒါရိုက်တာ (၄) ဦးပါဝင်သော ဒါရိုက်တာအဖွဲ့ဖြင့်ဖွဲ့စည်းသင့်ကြောင်း၊ မန်နေဂျင်းဒါရိုက်တာ ရာထူးနှင့်ဘဏ္ဍာရေးမှူး တို့ကိုတစ်လှည့်စီတာဝန်ပေးသင့်ကြောင်း၊ ဒါရိုက်တာအဖွဲ့အစည်းအဝေး ဆုံးဖြတ်ချက်ကို unanimous vote ဖြင့် ဆောင်ရွက်သင့်ကြောင်း၊ စီမံခန့်ခွဲရေးအပိုင်းကို သေချာစွာကြပ်မတ်ဆောင်ရွက်နိုင်ရန် Management Committee ဖွဲ့စည်းထားသင့်ကြောင်း ပြောကြားပါသည်။<br><br>မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန၊ ညွှန်ကြားရေးမှူးချုပ် ဦးဘုံကျော်က စာရင်းကိုင်အရာရှိတစ်ဦးကိုမြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနမှခန့်ထားပါကြောင်း တင်ပြပါသည်။<br><br>တွဲဖက်အတွင်းရေးမှူး ဦးမောင်မောင်ရီက မြေငှားကာလကုန်ဆုံးပြီး မြေနှင့်တကွရွှေ့မပြောင်းနိုင်သည့်ပစ္စည်းများကိုမြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနသို့ဖက်စပ်ကုမ္ပဏီမှပြန်လည်လွှဲပြောင်းပေးရာတွင်အဖိုးစားနားမပါဘဲပြန်လည်လွှဲပြောင်းသင့်သည့်အချက်ကိုထည့်သွင်းသင့်ပါကြောင်း တင်ပြပါသည်။ | |

| အမှတ်စဉ် | ဆွေးနွေးချက်နှင့်ညှိနှိုင်းဆုံးဖြတ်ချက် | ဆောင်ရွက်ရန် သိသာရန် |
|---|---|---|
| ၁ | ၂ | ၃ |
| | ဒုတိယဝန်ကြီးချုပ်၊ ဒုတိယဗိုလ်ချုပ်ကြီးမောင်မောင်ခင်က ဘဏ်အာမခံကြေး အဖြစ် ဇေကမ္ဘာမှထည့်ဝင်မည့် ၇၀ % ရင်းနှီးမြှုပ်နှံမှု၏ ၂% ကို ပေးသွင်းသွားသင့်ကြောင်း၊ Termination Clause ပါမပါ စီစစ်သင့်ကြောင်း ပြောကြားပါသည်။ | |
| | <u>ဆုံးဖြတ်ချက်</u>။ | |
| | (၁) ရွှင်ရယ်မင်္ဂလာဒုံ ဂေါ့ဖ်အင်န်ကန်း ထရိုးကလပ် ကုမ္ပဏီလီမိတက်တည်ဆောက်ရန် နိုင်ငံတကာအဆင့်မီ ဂေါက်ကွင်း၊ တင်းနစ်ကွင်း၊ ရေကူးကန်နှင့်အဆင့်မြင့်လုံးချင်း အိမ်ရာစီမံကိန်းလုပ်ငန်း ဆောင်ရွက်ရန်မူအားဖြင့်သဘောတူကြောင်း ၊ | အတွင်းရေးမှူး မြို့ရွာနှင့်အိုး အိမ်ဖွံ့ဖြိုးရေး ဦးစီးဌာန |
| | (၂) လုံးချင်းအိမ်ရာများကို မြန်မာနိုင်ငံသားများကိုသာ ရောင်းချခွင့်ပြုရန်နှင့် ထိုသို့ရောင်းချပါက ဝယ်ယူသူအမည်ဖြင့်နှစ် ၆၀ ဂရံထုတ်ပေးရန်နှင့် နိုင်ငံခြားသားများကို တစ်နှစ်စာချုပ်ချုပ်ဆို၍ ငှားရမ်းခွင့်ပြုရန်၊ | |
| | (၃) Suppliers' Credit စနစ်ဖြင့် SWI Investment Pte Ltd. မှ ချေးငွေရယူရန်စာချုပ်ကို ဇေကမ္ဘာကုမ္ပဏီအနေဖြင့် ချုပ်ဆိုချေးယူရန်၊ | |
| | (၄) မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနမှ ဒါရိုက်တာ (၃) ဦးနှင့် ဇေကမ္ဘာကုမ္ပဏီမှ ဒါရိုက်တာ (၄) ဦး ပါဝင်သော ဒါရိုက်တာအဖွဲ့ဖွဲ့စည်းရန်နှင့် အရေးကြီးသော ဆုံးဖြတ်ချက်ကို Uninamous decision ဖြင့် ဆောင်ရွက်ရန်၊ | |

| အမှတ်စဉ် | ဆွေးနွေးချက်နှင့်ညှိနှိုင်းဆုံးဖြတ်ချက် | ဆောင်ရွက်ရန် သိသာရန် |
|---|---|---|
| ၁ | ၂ | ၃ |
| | (၅) ဒါရိုက်တာအဖွဲ့တွင်မန်နေဂျင်းဒါရိုက်တာရာထူး နှင့်ဘဏ္ဍာရေးမှူးကိုတစ်လှည့်စီတာဝန်ပေးရန်၊<br>(၆) Management Committee ဖွဲ့ကာလုပ်ငန်းအတွက် စီမံခန့်ခွဲရေးကိုကြပ်မတ်ဆောင်ရွက်ရန်၊<br>(၇) မြေငှားကာလကုန်ဆုံးပြီး မြေနှင့်တကွ ရွှေ့မပြောင်းနိုင်သည့်ပစ္စည်းများကိုဖက်ဂေါ်ကုမ္ပဏီမှ မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနသို့အဖိုးစားနားမယူဘဲပြန်လည်လွှဲပြောင်းပေးရန်၊<br>(၈) ဘဏ်အာမခံကြေးငွေကို ZKB ၏ စုစုပေါင်း ရင်းနှီးမြှုပ်နှံမှု၏ ၂% ပေးသွင်းရန်၊<br>(၉) အထက်ပါအချက်များကိုညှိနှိုင်းပြင်ဆင်ပြီးပါက ကော်မရှင်အစည်းအဝေးသို့ဆက်လက်တင်ပြရန်၊<br>(၁၀) လုပ်ငန်းတည်ဆောက်မှုကာလအတွက် Saloon (တစ်)စီး၊ Pick-up (တစ်)စီးနှင့် Mini-Bus (တစ်)စီးတို့ကိုအခွန်အကောက်ကင်းလွတ်ခွင့်ဖြင့်လည်းကောင်း၊ လုပ်ငန်းဆောင်ရွက်မှုကာလအတွက် Saloon (တစ်)စီး၊ Pick-up (တစ်)စီးနှင့် Mini-bus (တစ်)စီးတို့ကိုအခွန်အကောက် ၅၀% သက်သာခွင့်ဖြင့်လည်းကောင်း တင်သွင်းခွင့်ပြုရန်နှင့်တင်သွင်းမည့်စက်ပစ္စည်းစာရင်းများအနက် Buggie Golf Car အစီး(၂၀)၊ Tipper Truck (၁၀)စီး၊ Air Conditioner 1 HP (၁၇၅)လုံးနှင့် 1.5 HP (၁၇၅)လုံး၊ Road Roller (၂)စီး တို့ကိုတင်သွင်းခွင့်ပြုရန်၊ Game Machine (၄၀)လုံး နှင့်Golf equipment&accessoriesတို့တင်သွင်း ခွင့်မပြုရန်၊ | |

(၃၀.၁.၉၈) ၇/၉၈ ကော်/ဆွေ

လျှို့ဝှက်

## လုပ်ငန်းစီမံကိန်း အဆိုပြုချက်အကျဉ်းချုပ်များ

## (မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ)

| | | |
|---|---|---|
| ၁။ | အမည် | ရွှင်ဂယ်မင်္ဂလာဒုံ ဂေါက်အင်န်ကန်းထရီးကလပ် ကုမ္ပဏီလီမိတက်<br>( Royal Mingalardon Golf & Country Club Co., Ltd.)(ဖက်စပ်ကုမ္ပဏီ) |
| ၂။ | လုပ်ငန်းအဆိုပြုသူအမည် | ဦးအုံးကျော်<br>(မြို့တော်နှင့်ကျေးလက်ဖွံ့ဖြိုးရေးဦးစီးဌာန) ၃၀ %<br>( DHSHD )<br>ဦးခင်ရွှေ ၇၀ %<br>ဇေကဘာကုမ္ပဏီလီမိတက်<br>(ZAYKABAR Co., Ltd.)(ZKB) |
| ၃။ | အဆိုပြုလုပ်ငန်းအမျိုးအစား | နိုင်ငံတကာအဆင့်မီ (၁၈) ကျင်း ဂေါက်ကွင်း၊ တင်းနစ်ကွင်း၊ ရေကူးကန်၊ အဆင့်မြင့်လုံးချင်းအိမ် (၁၀၀) လုံး ဆောက်လုပ်ခြင်း လုပ်ငန်း ၊ |
| ၄။ | တည်နေရာ | မြေကွက်အမှတ် (၅၃၄ဘီ)၊ အမှတ် (၃) လမ်းမကြီးဘေး ၊ မင်္ဂလာဒုံမြို့နယ်၊ ရန်ကုန်မြို့။ |
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | ကျပ် ၃၃၇၇.၄၉၀ သန်း (US$ ၅.၀၃၃ သန်း<br>(ကျပ်သန်း) အပါအဝင်) |
| | - ထည့်ဝင်ငွေ | |
| | DHSHD | ၃.၀၀ |
| | ZKB | ၇.၀၀ |
| | Interest Free Share Holders' Loan | |
| | DHSHD | ၁၀၀၁.၀၀ |
| | ZKB | ၂၃၃၅.၇၀ |
| | | ၃၃၄၆.၇၀ |

| | | |
|---|---|---|
| | ဖက်စပ်ကုမ္ပဏီ၏ ချေးငွေ | |
| | - စက်ပစ္စည်း ကရိယာ | ၁၀,၀၄၀ ( US $ ၁,၀၀၀သန်း ) |
| | - ကုန်ကြမ်း | ၁၉,၉၅၀ ( US $ ၃,၃၂၅သန်း ) |
| | စုစုပေါင်း | ၃၃၇၇.၄၉[illegible] ( US $ ၅,၁၃၃သန်းအပါအဝင်) |
| | | ( စီမံကိန်း ဆောင်ရွက်မည့် မြေ၂၀၆ဧကအား မြေငှားရမ်းခအဖြစ်တစ်ဧကလျှင်ကျပ် ၃၅သိန်းနှုန်းဖြင့်ကျပ် ၁၀၀၀သန်းကို DHSHD မှ Interest Free Shareholder's Loan အဖြစ်လည်းကောင်း၊ ZKB မှလည်းကျပ် ၂၃၃၅.၇သန်း ကို Interest Free Shareholder's Loan အဖြစ်လည်း ကောင်းသင့်မှတ်ထည့်ဝင်ထားခြင်းဖြစ်ပါသည်။ ) |
| ၆။ | မြေအကြောင်းအရာ<br>- မြေအကျယ်အဝန်း<br>- မြေပိုင်ဆိုင်မှု<br>- ငှားရမ်းမည့်သက်တမ်း | ၂၀၆ဧက ( ၁၁၅၇၄၀၁.၉၈စတုရန်းမီတာ ) မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနပိုင် မြေ လုံးချင်း အိမ်ယာများ အား နှစ် ( ၆၀ ) ဂရံချ ပေး၍ ဂေါက်ကွင်းနှင့်ဆက်စပ်လျက်ရှိ သောလုပ်ငန်းများအား ကနဦးနှစ် ( ၃၀ ) နှင့် နောက်ထပ်(၅) နှစ် ( ၄ ) ကြိမ်တိုး မြှင့်ခွင့်၊ |
| ၇။ | ဝန်ဆောင်မှု | |

| (၁) ၁၈ကျင်း ပါဂေါက်ကွင်း | နိုင်ငံခြားငွေဖြင့် | ကျပ်ငွေဖြင့် |
|---|---|---|
| - အသင်းဝင်ကြေး ( နှစ်စဉ် ) | US$ ၅၀၀၀.၀၀ | ကျပ် ၅ သိန်း |
| - လစဉ် ကြေး | US$ ၅၀.၀၀ | ကျပ်၄၀၀၀ |
| - အသင်းဝင်မဟုတ်သူများ(တစ်နေ့) ကွင်း ကြေး | US$ ၅၀.၀၀ | ကျပ်၂၀၀၀ |

| | | နိုင်ငံခြားငွေဖြင့် | ကျပ်ငွေဖြင့် |
|---|---|---|---|
| | (၂) Tennis | | |
| | တင်းနစ်ကွင်းဝင်ကြေး | US$ ၆.၀၀ | ကျပ် ၁၀၀၀ |
| | (၃) Swimming | | |
| | ရေကူးကန်ဝင်ကြေး | US$ ၃.၆၀ | ကျပ် ၅၄၀ |
| | (၄) Facilities | | |
| | Club Facilities Fee (တစ်ရက်) | US$ ၁၀.၀၀ | |
| | On Course Fee (တစ်ရက်) | US$ ၂၀.၀၀ | |
| | Pro-Shop Fee (တစ်ရက်) | US$ ၂၀.၀၀ | |
| ၈။ | လုံးချင်းအိမ်ယာ ၁ ရောင်းဈေး(၁လုံး) | | ကျပ်သိန်း ၃၀၀ |
| ၉။ | ဝင်ငွေ (ပုံမှန်နှစ်) | နိုင်ငံခြားငွေဖြင့် (US$ သန်း) | ကျပ်ငွေဖြင့် (ကျပ်သန်း) |
| | - ဂေါက်ကွင်းဝင်ငွေ | ၀.၉၈ | ၆၁.၀၀ |
| | - တင်းနစ်ကွင်း ဝင်ငွေ | ၀.၀၁ | ၂.၇၀ |
| | - ရေကူးကန်ဝင်ငွေ | ၀.၀၂ | ၅.၀၅ |
| | - Facilities | ၀.၀၄ | - |
| | - စားသောက်ဆိုင်ဝင်ငွေ | ၁.၀၀ | ၁၆၀.၀၄ |
| | - လုံးချင်းအိမ်ယာ (၁၀၀)လုံးရောင်းရခြင်းမှဝင်ငွေ (နှစ်နှစ်အတွင်းရောင်းရငွေ) | - | ၃၀၀၀.၀၀ |
| | | နိုင်ငံခြားငွေဖြင့် | ကျပ်ငွေဖြင့် |
| ၁၀။ | အသားတင်အမြတ် (ပုံမှန်နှစ်) | US$ ၂.၆၄ သန်း | ကျပ် ၃၆.၃၉ သန်း |
| ၁၁။ | နိုင်ငံတော်မှ ပုံမှန်နှစ်တွင်ရရှိမည့်အကျိုးအမြတ် | | |
| | - ဝင်ငွေခွန် ( US$ ) | US$ ၀.၄၇ သန်း | |
| | (ကျပ်) | ကျပ် ၁၅.၆၀ သန်း | |
| | - ကုန်သွယ်လုပ်ငန်းခွန် ( US $ ) | US$ ၀.၂၀ သန်း | |
| | (ကျပ်) | ကျပ် ၁၆.၀၀ သန်း | |

| | | |
|---|---|---|
| | - DHSHD ၏အမြတ်ငွေ (US$) | US$ ၀.၇၉သန်း |
| | (ကျပ်) | ကျပ် ၁၀.၉၂သန်း |
| ၁၂။ | တည်ဆောက်မှုကာလ | (၄) နှစ် |
| ၁၃။ | ဝန်ထမ်းအင်အား | ၆၇၂ ဦး |
| | -ပြည်တွင်း | ၆၆၂ ဦး |
| | -ပြည်ပ | ၁၀ ဦး |
| ၁၄။ | အခြား | - US$ ၅.၁၃သန်း တန်ဖိုးရှိ စက်ပစ္စည်းကရိယာ နှင့်ထုတ်ကုန်ကြမ်းပစ္စည်းများကိုစင်ကာပူနိုင်ငံSWI Investment Pte Ltd မှSupplier Credit စနစ်ဖြင့်ဝယ်ယူမည်ဖြစ်ပါသည်။ အတိုးနှုန်းမှာ တစ်နှစ်လျှင်၈ %ဖြစ်ပြီး ဆိုင်းငံ့ကာလ (၃) နှစ် နှင့် (၅) နှစ်အတွင်း ပြန်လည်ပေးဆပ်ရမည် ဖြစ်ပါသည်။<br><br>- စက်ပစ္စည်းစာရင်းတွင် US$ (၃၁၀၀၀) တန်ဖိုးရှိ Jeep / Wagon (၁) စီး၊ Saloon (၁) စီး၊ Pick-up (၂) စီး၊ Light Truck (၂) စီး၊ Mini Bus (၃) စီး နှင့် Buggi Golf Car အစီး (၄၀)၊ 90 model 10 ton tipper truck အစီး (၂၀)၊ 1 H.P Split Type Air Conditioner အလုံး (၃၀၀)၊ 1.5 H.P Split Type Air Conditioner (၃၂၅) လုံး Road Roller (၂) စီး ၊ Game Machine (၁၀) လုံး ပါဝင်ပါသည်။<br><br>-တည်ဆောက်မှုကာလ (၄) နှစ်အတွင်း ပထမနှစ် နှင့်ဒုတိယနှစ်တို့တွင် (၁၀) ကွင်း ပါဂေါက်ကွင်း |

နှင့်အကောင့်ဖြင့်လုံးချင်းအိမ်ရာ (၁၀၀) ပြီးစီးရမည်ဖြစ်ပြီး၊ တတိယနှစ်နှင့်စတုတ္ထနှစ်တို့တွင် ရေကူးကန်နှင့်တင်းနစ်ကွင်းတို့ပြီး စီး ရမည်ဖြစ်ပါသည်။

[ဖက်စပ်လုပ်ငန်းသဘောတူစာချုပ် (မူကြမ်း) အပိုဒ် ၅ (ခ)]

- ဖက်စပ်ကုမ္ပဏီသည်အပြီး သတ်တည် ဆောက်ပြီး သော ဂေါက်ကွင်း၊ ရေကူးကန်၊ တင်းနစ်ကွင်း၊ လူနေရေး အဆောက်အဦများနှင့်လုံးချင်းအိမ်များကို ZKB ကလွှဲအပ် ပေးသည်ကိုလက်ခံ၍ ဖက်စပ်ကုမ္ပဏီကတည်ဆဲ ဥပဒေများနှင့်အညီ ရောင်းချခြင်း၊ အခကြေး ငွေယူခြင်းနှင့်အခြားစီမံခန့်ခွဲရေးလုပ်ငန်း များကိုဒါရိုက်တာအဖွဲ့၏ဆုံးဖြတ်ချက်အရဆောင်ရွက် သွားရမည်။ [ဖက်စပ်သဘောတူစာချုပ် (မူကြမ်း) အပိုဒ် ၁၁]

- လုပ်ငန်း စတင် ဆောင်ရွက်ပြီး (၁၀) နှစ်အတွင်း DHSHD - မှ နောက်ထပ်အစုရှယ်ယာများ ၁၀ % ဝယ်ယူနိုင်ရန်နှစ်ဖက်သဘောတူကြပါသည်။

[ဖက်စပ်သဘောတူစာချုပ် (မူကြမ်း) အပိုဒ် ၂၇]

-(မည်သည့်နှုန်းဖြင့်ဝယ်ယူမည်ကို ဖော်ပြရန်လိုအပ်ပါသည်။ )

- DHSHD အတွက်အစုရှယ်ယာ ၁၃၀၀၀၏တန်ဖိုး ဖြစ်သော ကျပ်သိန်း ၃၀ ကို ZKB ကတိုက်ရိုက် ဖက်စပ်ကုမ္ပဏီသို့ ပေးသွင်း ရမည်ဖြစ်ပါသည်။

[ဖက်စပ်သဘောတူစာချုပ် (မူကြမ်း) အပိုဒ် ၂၉(ခ)]

- "ZKB" အနေဖြင့်ဖက်စပ်ကုမ္ပဏီသို့ထည့်ဝင်ရမည့်စီမံကိန်း လုပ်ငန်း တန်ဖိုး ငွေပမာဏ၏ ၇၀% နှင့်ညီမျှသော ငွေပမာဏပြည့်မီစွာထည့်ဝင်နိုင်

ရန် ဈေး ငွေအဖြစ် ရယူပါကယင်း ဈေး ငွေနှင့်အတိုး များကို ပေးဆပ်ရန်မှာ "ZKB" ၏တာဝန်သာ ဖြစ်ပြီး ဖက်ဒရယ်ကုမ္ပဏီနှင့်ပတ်သက်မှုမရှိကြောင်း ဖော်ပြထားပါသည်။

[ဖက်ဒရယ်သဘောတူစာချုပ် (မူကြမ်း)အပိုဒ် ၃၄]

- ဖက်ဒရယ်ကုမ္ပဏီကို DHSHD မှ ဒါရိုက်တာ (၃) ဦး နှင့် ZKB ဖက်မှ ဒါရိုက်တာ (၆) ဦးပါဝင် သော ဒါရိုက်တာအဖွဲ့ဖြင့်ဖွဲ့စည်း မည်ဖြစ်ပြီး ပထမ ဘဏ္ဍာရေးနှစ်တွင် DHSHD မှ ဥက္ကဋ္ဌအဖြစ်တာ ဝန်ယူပြီး နောက်နှစ်များတွင် DHSHD နှင့် ZKB တို့မှ ဒါရိုက်တာအဖွဲ့ဝင်တစ်ဦးကတစ်နှစ်စီခြားလျက် ဥက္ကဋ္ဌအဖြစ်တာဝန်ယူရမည်ဖြစ်ပါသည်။ [ဖက်ဒရယ် သဘောတူစာချုပ် (မူကြမ်း)အပိုဒ် ၃၅၊ ၃၆]

- ၁၉၈၇ ခုနှစ်၊ မရွှေမပြောင်းနိုင်သောပစ္စည်း လွှဲပြောင်းခြင်းကိုကန့်သတ်သည့်ဥပဒေပုဒ်မ-၃ အရလုံးချင်းအိမ်ရာများ ကိုနိုင်ငံခြားသား (သို့) နိုင်ငံခြားကုမ္ပဏီများ သို့ ရောင်း ချခွင့်မရှိသ ဖြင့်ဖက်ဒရယ်ကုမ္ပဏီနှင့်သက်ဆိုင်ရာနိုင်ငံခြားသား (သို့) နိုင်ငံခြားကုမ္ပဏီတို့စာချုပ်ချုပ်ဆို၍ ငှားရမ်း အသုံး ပြုခွင့်ကိုသာခွင့်ပြုမည်ဖြစ်ပါသည်။

[ဖက်ဒရယ်သဘောတူစာချုပ် (မူကြမ်း) အပိုဒ် ၅၀]

- ဖက်ဒရယ်ကုမ္ပဏီအနေဖြင့်လုံး ချင်း အိမ်ရာများ ဆောက်လုပ်ပြီး စီး ၍ ရောင်း ချသည့်အိမ်ရာ များ ကိုဝယ်ယူသူအမည်ဖြင့်နှစ် (၆၀) ဂရံထုတ် ပေး ရန်နှင့် ဂေါက်ကွင်း၊ ရေကူးကန်၊ တင်းနစ် ကွင်းနှင့်လူမှုရေးအ ဆောက်အဦများကိုကုမ္ပဏီအမည်

ဖြင့်နှစ် (၃၀) ဂရံနှင့် (၅) နှစ်စီသက်တမ်း (၄) ကြိမ်တိုး မြှင့်ခွင့်ကို DHSHD နှင့်ညှိနှိုင်း ဆောင်ရွက်ရမည်ဖြစ်ကြောင်း ဖော်ပြထားပါသည်။
[ဖက်စပ်သဘောတူစာချုပ် (မူကြမ်း)အပိုဒ် ၁၃.၁၄]

- ရွေ့ပြောင်းကာလကုန်ဆုံးပြီး (၃) လအတွင်း မြေနှင့် တကွ မရွှေ့မပြောင်းနိုင်သည့်ပစ္စည်းများ ကို DHSHD အား ဖက်စပ်ကုမ္ပဏီမှ ပြန်လည်လွှဲပြောင်း ပေးရမည်ဖြစ်ပါသည်။ [ဖက်စပ်သဘောတူစာချုပ် (မူကြမ်း) ၁၄ (ခ)]

(ပြန်လည်လွှဲပြောင်းရာတွင် အဖိုးစားနားမပါဘဲ ပြန်လည်လွှဲပြောင်းပေးရန် ဖော်ပြသင့်ပါသည်။ )

- ဖက်စပ်ကုမ္ပဏီအနေဖြင့် ဆက်လက်လုပ်ကိုင် ဆောင်ရွက်ခြင်းပြုလိုပါက DHSHD နှင့်စာချုပ်အသစ်ပြုလုပ်၍ MIC ၏အတည်ပြုချက်ရယူကာ ဆက်လက်လုပ်ကိုင် ဆောင်ရွက်ခွင့်ရရှိစေရန် ဆောင်ရွက်ရမည်။
[ဖက်စပ်သဘောတူစာချုပ် (မူကြမ်း)အပိုဒ် ၁၄ (ဂ) ]

- လုံးချင်းအိမ်များ တွင် နေထိုင်သူ (သို့) နေထိုင်ခွင့်ရရှိသူများသည် ၎င်းတို့ရရှိမည့်ဂရံသက်တမ်း ကုန်ဆုံးပြီး နောက်ဆက်လက် နေထိုင်ခွင့်ရရှိရန်အတွက် ရွေ့ပြောင်း ကာလတိုး မြှင့်ခွင့်ပြုရန် DHSHD သို့ လျှောက်ထားရမည်ဖြစ်ပါသည်။
[ဖက်စပ်သဘောတူစာချုပ် (မူကြမ်း) အပိုဒ် ၁၄ (ဃ)]

-ဤလုပ်ငန်း အတွက် ဂေါက်ကွင်း၊ ကင်းနစ်ကွင်း၊ ရေကူးကန်၊ အဆင့်မြင့်လုံးချင်းအိမ်ရာများ ဆောက်လုပ်မည့် မြေနေရာများကိုခွဲခြားသတ်မှတ် ဖော်ပြထားခြင်း မရှိပါ။

-ဘဏ်အာမခံ ကြေး ပေး သွင်းထားခြင်း မရှိပါ။

-စီမံကိန်းလုပ်ငန်းကုန်ကျစရိတ်သည်စီမံကိန်းလုပ်ငန်းတန်ဘိုး ငွေ ပေါင်း၏ ၇၀ %နှင့်ညီမျှသော ကျပ် ၂၃၃၅.၇သန်း ကျော် လျော့နည်း ပါက ZKB သည်အဆိုပါ လျော့နည်း ငွေကိုဖက်စပ်ကုမ္ပဏီသို့ပေးသွင်း ရမည်ဖြစ်ပြီး DHSHD နှင့် ZKB တို့မှအစုရှယ်ယာအချိုး အတိုင်း ပိုင်ဆိုင်ခွင့်ရှိမည်ဖြစ်ပါသည်။

(ဖက်စပ်သဘောတူစာချုပ် (မူကြမ်း) အပိုဒ် ၁၄)

-အကယ်၍ စီမံကိန်းလုပ်ငန်းကုန်ကျစရိတ်သည်သတ်မှတ်ထား သော ကျပ် ၂၃၃၅.၇သန်း ကျော်ပိုမို ကုန်ကျပါကဖက်စပ်ကုမ္ပဏီသည်ဘဏ်မှ ချေး ငွေယူရန် ZKB မှတာဝန်ယူ ဆောင်ရွက်ရမည်ဖြစ်ပြီး ဖက်စပ်ကုမ္ပဏီပိုင် ငွေဖြင့်အတိုး ၊ အရင်းပြန်ဆပ်ရန်တာဝန်ရှိကြောင်း ဖော်ပြထားပါသည်။

(ဖက်စပ်သဘောတူစာချုပ် (မူကြမ်း) အပိုဒ် ၁၅)



# ZAYKABAR Company Limited

GROUND FLOOR SUITE, (3), 8 MILE JUNCTION, PYAY ROAD, YANGON, MYANMAR.
TEL : 64920, 64876, TLX : 21525 ZAYCO BM FAX : 65052 (MYANMAR)

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့။

စာအမှတ်။ ၁၂၅ / ဇက်ကောဘီ / ၉၈
ရက်စွဲ ။ ၁၉၉၈ခုနှစ်၊ ဖေဖော်ဝါရီလ( ၂ )ရက်

အကြောင်းအရာ ။ **။ခွင့်ပြုမိန့်ရရှိရေးအတွက် အဆိုပြုတင်ပြခြင်း။**

၁။ ကျွန်တော်များ ဇေကမ္ဘာကုမ္ပဏီလီမိတက်အနေနှင့် "ရွှေဂ်ရယ်မက်လာဒုံဂေါ့ဖ်အင်န်ကန်းထရီးကလပ် ကုမ္ပဏီလီမိတက်" အမည်ဖြင့် နိုင်ငံတကာအဆင့်မီ ၁၈ကျင်းပါဂေါက်ကွင်းနှင့် ရေကူးကန်၊ တင်းနစ်ကွင်း၊ အဆင့်မြင့်လုံးချင်းအိမ် ၁၀၀လုံးတို့ကို မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနပိုင်မြေ ၂၈၆ဧကပေါ်တွင် မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနမှ ၃၀%နှင့်ဇေကမ္ဘာကုမ္ပဏီလီမိတက်မှ ၇၀% ဖြင့်အကျိုးတူပူးပေါင်း၍ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဥပဒေအရ တည်ဆောက်မည်ဖြစ်ပါ၍ ဥပဒေလိုအပ်ချက်များနှင့်အညီ စာချုပ်များကိုလည်းကောင်း၊ စီးပွားရေးတွက်ခြေကိုက်မှုကိုလည်းကောင်း ပြန်လည်တွက်ချက်၍ ထပ်မံတင်ပြအပ်ပါသည်။

၂။ ၎င်းပြင် ကျွန်တော်များအနေဖြင့် ရွှေဂ်ရယ်မက်လာဒုံဂေါ့ဖ်အင်န်ကန်းထရီးကလပ် ကုမ္ပဏီလီမိတက် တည်ထောင်ပြီး ဖော်ပြပါ လုပ်ငန်းများဆောင်ရွက်ခြင်းဖြင့် အောက်ပါအခွင့်အလမ်းများ ရရှိပေါ်ပေါက်နိုင်ပါကြောင်း တဆက်တည်းတင်ပြလိုပါသည်။

(က) အလုပ်အကိုင်အခွင့်အလမ်းများပေါ်ပေါက်ခြင်း၊
(ခ) အမျိုးသားဝင်ငွေတိုးတက်ရရှိနိုင်ခြင်း၊
(ဂ) နိုင်ငံတော်အတွက်အခွန်ဘဏ္ဍာများတိုးပွားရရှိနိုင်ခြင်း၊
(ဃ) နိုင်ငံတော်အတွက်နိုင်ငံခြားသုံးငွေရရှိနိုင်ခြင်း၊
(င) ပတ်ဝန်းကျင်းစိမ်းလန်းစိုပြေသာယာရေးကိုအထောက်အကူပြုခြင်း။

၃။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အနေနှင့် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေအခန်း(၇) အပိုဒ် ၁၂နှင့် ၁၃ အရ အခွန်ဆိုင်ရာလွတ်ငြိမ်းခွင့်နှင့် သက်သာခွင့်များပါခွင့်ပြုနိုင်ပါရန် တင်ပြအပ်ပါသည်။

၄။ ဤခွင့်ပြုချက်မိန့်တောင်းခံလွှာနှင့်အတူ လိုအပ်သည့်စာရွက်စာတမ်းများကို ပူးတွဲတင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

(ခင်ရွှေ)
အုပ်ချုပ်မှုဒါရိုက်တာ

ပူးတွဲပါ–

(၁) မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ ရင်းနှီးမြှုပ်နှံလိုသူ၏ အဆိုပြုချက်

(၂) စီပွားရေးတွက်ခြေကိုက်မှုရှိ/ မရှိတင်ပြချက်များ

(၃) စီမံကိန်းနှင့်ပတ်သက်၍ အနှစ်ချုပ်တင်ပြချက်

(၄) ရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်

(၅) J.V Agreement

(၆) Lease Agreement

(၇) တည်ဆောက်မည့်နေရာပြ မြေပုံနှင့် ဆောက်လုပ်မည့်အဆောက်အဦးပုံစံများ

(၈) M.O.A/ A.O.A (မြန်မာ/ အင်္ဂလိပ်)

(၉) ဧကမ္ဘာကုမ္ပဏီ၏ ၁၉၉၅/၉၆ ခုနှစ်၊ ဘဏ္ဍာရေးနှစ်ချုပ်စာရင်း (ကုမ္ပဏီ၏ ငွေရေးကြေးရေးအထောက်အထား)

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
အမှတ် ၆၅၃/၆၉၁ ကုန်သည်လမ်း၊ ရန်ကုန်မြို့။

စာအမှတ်၊ ရက-၁/၀၀၃/၉၇ (          )
ရက်စွဲ၊ ၁၉၉၈ ခုနှစ်၊ ဇန်နဝါရီလ ၁၉ ရက်။

အကြောင်းအရာ။ မင်္ဂလာဒုံ စက်မှုဇုန်သို့ လေ့လာရေး သွားရောက်ရန် ကိစ္စ။

ဒုတိယဝန်ကြီးချုပ်နှင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ဥက္ကဋ္ဌ ဒုတိယ ဗိုလ်ချုပ်ကြီး မောင်မောင်ခင် ခေါင်းဆောင်သော လေ့လာရေး အဖွဲ့သည် မင်္ဂလာဒုံ စက်မှုဇုန် တည်ဆောက် ပြီးစီးမှု အခြေအနေများကို သွားရောက်လေ့လာမည်ဖြစ်ပါသည်။ သို့ဖြစ်ပါ၍ အောက်ပါ အစီအစဉ်အတိုင်း သွားရောက်မည့် လေ့လာရေး ခရီးစဉ်သို့ ပါဝင်တက်ရောက်ပါရန် ဖိတ်ကြားအပ်ပါသည်။

သွားရောက်မည့်နေ့ရက် ။ ။ ၂၀-၁-၉၈ (အင်္ဂါနေ့)

အချိန် ။ ။ နံနက် ၀၉း၃၀ နာရီ

စုရပ် ။ ။ မင်္ဂလာဒုံ စက်မှုဇုန် အဝင်ဝ
(ခရေပင်လမ်းနှင့် အမှတ် ၃ လမ်းမကြီး လမ်းဆုံ)

အမိန့်အရ

( မောင်မောင်ရီ)
တွဲဖက်အတွင်းရေးမှူး

ဖိတ်ကြားခြင်း –

| | | |
|---|---|---|
| ၁။ | ဒုတိယ ဗိုလ်ချုပ်ကြီး မောင်မောင်ခင်<br>ဒုတိယ ဝန်ကြီးချုပ်။ | ဥက္ကဋ္ဌ |
| ၂။ | ဒုတိယ ဗိုလ်ချုပ်ကြီး တင်ထွန်း<br>ဒုတိယ ဝန်ကြီးချုပ်။ | ဒုတိယ ဥက္ကဋ္ဌ |
| ၃။ | ဗိုလ်မှူးချုပ် လွန်းမောင်<br>ဝန်ကြီး<br>ဝန်ကြီးချုပ်ရုံး။ | အဖွဲ့ဝင် |
| ၄။ | ဦးခင်မောင်သိန်း<br>ဝန်ကြီး<br>ဘဏ္ဍာရေးနှင့် အခွန် ဝန်ကြီးဌာန။ | အဖွဲ့ဝင် |
| ၅။ | ဒုတိယ ဗိုလ်ချုပ်ကြီး မင်းသိန်း<br>ဝန်ကြီး<br>နိုင်ငံတော် အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ ဥက္ကဋ္ဌရုံး။ | အဖွဲ့ဝင် |
| ၆။ | ဗိုလ်မှူးချုပ် မောင်မောင်<br>ဝန်ကြီး<br>နိုင်ငံတော် အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ ဥက္ကဋ္ဌရုံး။ | အတွင်းရေးမှူး |

အထူး ဖိတ်ကြားခြင်း –

၁။ ဗိုလ်မှူးချုပ် ဝင်းတင်
ဝန်ကြီး
ဆက်သွယ်ရေး၊ စာတိုက်နှင့် ကြေးနန်း ဝန်ကြီးဌာန။

၂။ ဗိုလ်ချုပ် စောထွန်း
ဝန်ကြီး
ဆောက်လုပ်ရေး ဝန်ကြီးဌာန။

၃။ ဗိုလ်ချုပ် တင်ထွဋ်
ဝန်ကြီး
လျှပ်စစ် စွမ်းအား ဝန်ကြီးဌာန။

မိတ္တူကို –
ဦးအုံ့ကျော်
ညွှန်ကြားရေးမှူးချုပ်
မြို့ရွာနှင့် အိုးအိမ် ဖွံ့ဖြိုးရေး ဦးစီးဌာန။

2-9-97

<u>မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ</u>

<u>တင်ပြလာသည့် အဆိုပြုလုပ်ငန်း ။</u>

(၁) ကုမ္ပဏီအမည် ရေကမ္ဘာ ကုမ္ပဏီ လီမိတက် ✓

(၂) တင်ပြသည့်လုပ်ငန်း အမျိုးအစား နိုင်ငံတကာအဆင့်မီ ၁၈ ကျင်းပါ ဂေါက်ကွင်း၊ ရေကူးကန်၊ တင်းနစ်ကွင်း၊ [illegible] လုံးချင်းအိမ်ရာ ၁၀၀ တို့ကို တည်ဆောက်ရန်။

(၃) ကုမ္ပဏီမှတ်ပုံတင်ခွင့်ပြုသည့်နေ့ ၁၉ - ၉ - ၁၉၉၀

၂၆၈ / ၁၉၉၀ - ၁၉၉၁ ✓

(၄) ကုမ္ပဏီ၏သတ်မှတ်မတည်ငွေရင်း

(၅) အဆိုပြုသည့်လုပ်ငန်း အတွက်မတည်ငွေရင်း ကျပ် ၃၃၆၇.၄၉၈ သန်း

(၆) ဒါရိုက်တာများ - (၁) ဦး[illegible] (MMN - 561654)

[illegible] - ၇၇ ([illegible])၊ ✓

[illegible] ရိပ်သာ၊ [illegible] မြို့နယ်၊ ရန်ကုန်မြို့

(၂) ဒေါ်[illegible] (MMN - 490340)

[illegible] - ၇၇ ([illegible]) ✓

[illegible] ရိပ်သာ၊ [illegible] မြို့နယ်၊ ရန်ကုန်မြို့

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ

**ဆောက်လုပ်ရေးဝန်ကြီးဌာန**

စာအမှတ်၊ ၂၅/ဆ-၃/ ၉၇ (စီ ၂၀၆၆)

ရက် စွဲ ၊ ၁၉၉၇ခုနှစ်၊ ဩဂုတ်လ ၃၁ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့

အကြောင်းအရာ။ Royal Mingalardon Golf & Country Club Co., Ltd.တည်ထောင်၍မင်္ဂလာဒုံမြို့နယ်တွင်နိုင်ငံတကာအဆင့်မီ ဂေါက်ကွင်း နှင့်အဆင့်မြင့်အိမ်ရာစီမံကိန်းလုပ်ငန်းကိုဆောင်ရွက်ခွင့်ပြုပါရန်လုပ်ငန်းအဆိုပြုချက်တင်ပြခြင်း

ရည်ညွှန်းချက် ။ ရွှေနေချုပ်ရုံး၏၁၉၉၇ခုနှစ်၊ ဇူလိုင်လ ၂၈ ရက်နေ့စွဲပါစာအမှတ်၊ ၂(၄)၁/၁၂-၁၄၉(၄၁၁)

၁။ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနနှင့်ဖက်စပ်ပူးပေါင်း၍၊ မင်္ဂလာဒုံမြို့နယ်တွင်နိုင်ငံတကာအဆင့်မီဂေါက်ကွင်းနှင့်အဆင့်မြင့်အိမ်ရာစီမံကိန်းဆောင်ရွက်လိုကြောင်း မြန်မာနိုင်ငံသားပိုင်ကုမ္ပဏီဖြစ်သည့်ဧကရာဇ်ကုမ္ပဏီလီမိတက်မှတင်ပြလာပါသဖြင့်လက်ခံတွေ့ဆုံဆွေးနွေးခဲ့ရာအောက်ပါအတိုင်းပဏာမသဘောတူညီချက်ရရှိခဲ့ပါသည်။

(က) မင်္ဂလာဒုံမြို့နယ်အမှတ်(၃)လမ်းမကြီး၏အရှေ့ဖက်မြေတိုင်းအမှတ်(၅၃၄ ဘီ)ဧရိယာ(၂၈၆)ဧကရှိမြေပေါ်တွင်စီမံကိန်းဆောင်ရွက်ရန်၊

(ခ) စီမံကိန်းလုပ်ငန်းများအဖြစ်နိုင်ငံတကာအဆင့်မီ (၁၈) ကျင်းပါဂေါက်ကွင်း၊ တင်းနစ်ကွင်းနှင့်လုံးချင်းအိမ်ရာများပါဝင်သည့်အဆင့်မြင့်အိမ်ရာစီမံကိန်းများနှင့်ယင်းတို့နှင့်ဆက်စပ်သည့်အခြေခံအဆောက်အအုံများ(Infrastructure) အများပြည်သူဆိုင်ရာအဆောက်အအုံများတည်ဆောက်ရန် ၊

(ဂ) အဆိုပါစီမံကိန်းကို မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန နှင့် ဇောကမ္ဘာကုမ္ပဏီလီမိတက်တို့ပူးပေါင်း၍ Royal Mingalardon Golf & Country Club Co.,Ltd. အမည်ဖြင့် ဖက်စပ်ကုမ္ပဏီဖွဲ့စည်းတည်ထောင်ဆောင်ရွက်သွားရန်၊

(ဃ) ဖက်စပ်ကုမ္ပဏီဖွဲ့စည်းရာတွင်အစုရှယ်ယာထည့်ဝင်မှုအချိုးအစားကို အောက်ပါအတိုင်း သတ်မှတ်ရန် -

- မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန ၃၀ %
- ဇောကမ္ဘာကုမ္ပဏီလီမိတက် ၇၀ %

(င) ဖက်စပ်ကုမ္ပဏီ၏မတည်ငွေရင်းAuthorized Capital အား တစ်ရှယ်ယာလျှင် ၁၀၀၀၀ိ/-တန်အစုရှယ်ယာ ပေါင်း ၁၀၀၀၀ဖြင့် ကျပ်သန်းတစ်ရာသတ်မှတ်၍ ရှယ်ယာအချိုးအစားကို အောက်ပါ အတိုင်း ခွဲဝေရန် -

| | အစုရှယ်ယာ ပေါင်း | | |
|---|---|---|---|
| - မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုး ရေးဦးစီးဌာန | ၃၀၀၀ | ကျပ် ၃၀၀၀၀၀၀၀ | ၃၀ % |
| - ဇောကမ္ဘာကုမ္ပဏီလီမိတက် | ၇၀၀၀ | ကျပ် ၇၀၀၀၀၀၀၀ | ၇၀ % |
| စုစုပေါင်း | ၁၀၀၀၀ | ကျပ် ၁၀၀၀၀၀၀၀၀ | ၁၀၀ % |

(စ) ဖက်စပ်ကုမ္ပဏီ၏ကနဦးမတည်ထည့်ဝင်ငွေ Initial Paid-up Capital - အဖြစ် အောက်ပါအတိုင်း ထည့်ဝင်ရန်နှင့်မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနမှထည့်ဝင်ရမည့် ကျပ် - ၃၀၀၀၀၀၀ ကို ဇောကမ္ဘာကုမ္ပဏီမှထည့်ဝင်ပေးရန် -

- မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုး ကျပ် ၃၀၀၀၀၀၀ ၃၀ %
  ရေးဦးစီးဌာန
- ဇောကမ္ဘာကုမ္ပဏီလီမိတက် ကျပ် ၇၀၀၀၀၀၀ ၇၀ %

၃/-

(ဆ) စီမံကိန်း ဆောင်ရွက်မည့်မြေ ၂၀၆ ဧကအား ဖွံ့ဖြိုးမည့်ဖက်စပ်ကုမ္ပဏီသို့အသုံးပြုခွင့်ကိုတစ်ဧကလျှင်ကျပ် ၃၅ သိန်းနှုန်းဖြင့်ကျပ်သိန်း ၁၀၀၁၀ တန်ဖိုးထား၍ မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန၏ Interest Free Shareholder's Loan သတ်မှတ်ရန်၊

(ဇ) ဇေကမ္ဘာကုမ္ပဏီအနေဖြင့်စီမံကိန်းအကောင်အထည်ဖော်မှုအစီအစဉ်အရပြီးစီးသွားသောလုပ်ငန်းတန်ဖိုးများကိုလစဉ်ဒါရိုက်တာများအစည်းအဝေးတွင်ဆုံးဖြတ်အတည်ပြု၍၊ စီမံကိန်းကုန်ကျစရိတ်ပေါင်းကျပ်သိန်း ၂၃၃၅၇ အထိ ဇေကမ္ဘာကုမ္ပဏီ၏ Interest Free Shareholder's Loan အဖြစ်သတ်မှတ်ထည့်ဝင်သွားရန်၊

(ဈ) ဖက်စပ်ကုမ္ပဏီမှတည်ဆောက်ပြီးစီးသည့်အိမ်ရာများအားရောင်းချရသည့်ငွေများမှအထက်ဖော်ပြပါ Shareholder's Loan နှင့်အချိုးကျအကျိုးအမြတ်ကိုအချိန်အခါအလိုက်ပြန်လည်ထုတ်ယူကြရန်၊

(ည) စီမံကိန်းလုပ်ငန်းလုပ်ဆောင်မှုအရဝင်ငွေနှင့်အသုံးစရိတ်များကိုစနစ်တကျရေးသွင်းပြီး နောက်၊ စာရင်းစစ်အတည်ပြုပြီးသောနှစ်ချုပ်ငွေစာရင်းမှအခွန်ဆောင်ပြီးအမြတ်ငွေကိုဒါရိုက်တာအဖွဲ့၏အစည်းအဝေးဆုံးဖြတ်ချက်ဖြင့်အစုရှယ်ယာအချိုးအစားအတိုင်း အောက်ပါအတိုင်းခွဲဝေထုတ်ယူခံစားရန်-

- မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန ၃၀ %
- ဇေကမ္ဘာကုမ္ပဏီလီမိတက် ၇၀ %

(ဋ) စီမံကိန်းတည်ဆောက်မှုကာလ (၄) နှစ်သတ်မှတ်ရန်၊

(ဌ) မြေငှားရမ်းကာလနှစ် (၆၀) သတ်မှတ်ရန်၊

(ဍ) ဖက်စပ်ကုမ္ပဏီမှဆောက်လုပ်ပြီးစီး၍ငှားရမ်းသည့်နေအိမ်များကိုဖက်စပ်ကုမ္ပဏီအမည်ဖြင့်မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနမှနှစ် (၆၀) မြေငှားဂရန်ထုတ်ပေးရန်၊

(ဎ) မြေငှားကာလကုန်ဆုံးပြီး (၃) လအတွင်း မြေနှင့်တကွမရွှေ့မပြောင်းနိုင်သောပစ္စည်းများအားလုံးကိုဖက်စပ်ကုမ္ပဏီမှ မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနသို့ပြန်လည်လွှဲပြောင်းပေးရန်၊

၂။ အပိုဒ် ( ၁ ) ပါ သဘောတူညီချက်များ အရညှိနှိုင်း ရေးဆွဲခဲ့သည့်ဖက်စပ် လုပ်ငန်း သဘောတူစာချုပ် ( မူကြမ်း ) နှင့် မြေငှားစာချုပ် ( မူကြမ်း ) များကို ရှေ့နေချုပ်ရုံး မှ ရည်ညွှန်း ချက် ပါစာဖြင့်စိစစ်ပြန်ကြားခဲ့ပြီး ဖြစ်ပါသည်။

၃။ သို့ဖြစ်ပါ၍၊ ဆောက်လုပ်ရေး ဝန်ကြီး ဌာန၊ မြို့ရွာနှင့်အိုး အိမ် ဖွံ့ဖြိုး ရေး ဦး စီး ဌာနနှင့် ဇောကမ္ဘာကုမ္ပဏီလီမိတက်တို့ပူး ပေါင်း၍ Royal Mingalardon Golf & Country Club Co., Ltd . အမည်ဖြင့်ဖက်စပ်ကုမ္ပဏီ ဖွဲ့စည်း ကာ၊ မင်္ဂလာဒုံမြို့နယ်တွင်နိုင်ငံတကာအဆင့်မီ ဂေါက်ကွင်း နှင့် အဆင့် မြင့် အိမ်ရာစီမံကိန်း ဆောင်ရွက်ခွင့် ရရှိရေး နှင့်မြန်မာနိုင်ငံ သားများရင်းနှီး မြှုပ်နှံမှုဥပဒေနှင့်အညီအခွန်ကင်း လွတ်ခွင့်နှင့်သက်သာခွင့်များ ကိုခံစား ခွင့်ပြု ပါရန်တင်ပြအပ်ပါသည်။

၄။ ဤစာနှင့်အတူလုပ်ငန်း အဆိုပြုချက် ( ၁၅ ) စုံကိုပူး တွဲပေး ပို့အပ်ပါသည်။

ဝန်ကြီး ( ကိုယ်စား )
( မင်း သိမ်း ၊ ရုံး အဖွဲ့မှူး )

မိတ္တူကို - ညွှန်ကြား ရေး မှူး ချုပ်၊
မြို့ရွာနှင့်အိုး အိမ် ဖွံ့ဖြိုး ရေး ဦး စီး ဌာန။

မိုး



ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
ဆောက်လုပ်ရေးဝန်ကြီးဌာန
မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန
၂၂၈-၂၃၄၊ ဗိုလ်ချုပ်လမ်း
ရန်ကုန်မြို့

စာအမှတ်၊ အကတ/၁၃၇/၉၇/( ၈၇၈ )
ရက်စွဲ၊ ၁၉၉၇ခုနှစ် ၊ ဖြဂုတ်လ ၁၄ ရက်

သို့
ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့။

အကြောင်းအရာ။ **" Royal Mingalardon Golf & Country Club Co.,Ltd" တည်ဆောက်၍မင်္ဂလာဒုံမြို့နယ်တွင်နိုင်ငံတကာအဆင့်မီဂေါက်ကွင်းနှင့်အဆင့်မြင့်အိမ်ရာစီမံကိန်းလုပ်ငန်းကိုဆောင်ရွက်ခွင့်ပြုပါရန်အဆိုပြုတင်ပြခြင်း ။**

ရည်ညွှန်းချက်။ (၁) ရွှေနေချုပ်ရုံး၏(၂၀-၇-၉၇)ရက်စွဲပါစာအမှတ် ၊ ၂(၄)၁/၁၂-၁၄၉(၄၁၁)
(၂) ဤဦးစီးဌာန၏(၁၄-၈-၉၇)ရက်စွဲပါစာအမှတ် ၊ အကတ/၁၃၇/၉၇( ၈၇၇ )

၁။ ဤဦးစီးဌာနနှင့်ဖက်စပ်ပူးပေါင်း၍ မင်္ဂလာဒုံမြို့နယ်တွင်နိုင်ငံတကာအဆင့်မီ ဂေါက်ကွင်းနှင့် အဆင့်မြင့်အိမ်ရာစီမံကိန်း ဆောင်ရွက်လိုကြောင်း မြန်မာနိုင်ငံသား ပိုင်ကုမ္ပဏီဖြစ်သည့် ဇေကမ္ဘာကုမ္ပဏီလီမိတက်မှတင်ပြလာပါသဖြင့်လက်ခံတွေ့ဆုံးဆွေးနွေးခဲ့ရာ အောက်ပါအတိုင်း ပဏာမသဘောတူညီချက်ရရှိခဲ့ပါသည်-

(က) မင်္ဂလာဒုံမြို့နယ် အမှတ်(၃)လမ်းမကြီး၏အရှေ့ဖက် မြေတိုင်းအမှတ်(၅၃၄ ဘီ)ဧရိယာ(၂၀၆)ဧကရှိ မြေပေါ်တွင်စီမံကိန်း ဆောင်ရွက်ရန်၊

(ခ) စီမံကိန်းလုပ်ငန်းများအဖြစ်နိုင်ငံတကာအဆင့်မီ(၁၈)ကျင်း ပါ ဂေါက်ကွင်း ၊ တင်းနစ်ကွင်းနှင့်လုံးချင်းအိမ်ရာများ ပါဝင်သည့် အဆင့်မြင့်အိမ်ရာစီမံကိန်းများနှင့်ယင်းတို့နှင့်ဆက်စပ်သည့်အခြေခံ အဆောက်အအုံများ ( Infrastructure ) အများပြည်သူဆိုင်ရာ အဆောက်အအုံများ တည်ဆောက်ရန်၊

(ဂ) အဆိုပါစီမံကိန်း ကိုမြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုး ရေး ဦး စီး ဌာန နှင့် ဇေကမ္ဘာကုမ္ပဏီလီမိတက်တို့ပူး ပေါင်း၍ " Royal Mingalardon Golf & Country Club Co., Ltd " အမည်ဖြင့်ဖက်စပ်ကုမ္ပဏီဖွဲ့စည်း တည်ထောင် ဆောင်ရွက်သွား ရန်၊

(ဃ) ဖက်စပ်ကုမ္ပဏီဖွဲ့စည်း ရာတွင်အစုရှယ်ယာ ထည့်ဝင်မှုအချိုး အစား ကို အောက်ပါအတိုင်း သတ်မှတ်ရန်-

- မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုး ရေး ဦး စီး ဌာန ၃၀%
- ဇေကမ္ဘာကုမ္ပဏီလီမိတက် ၇၀%

(င) ဖက်စပ်ကုမ္ပဏီ၏မတည်ငွေရင်း Authorized Capital အား တစ်စုလျှင် ၁၀၀၀၀ိ/-တန်အစုရှယ်ယာပေါင်း ၁၀၀၀၀ ဖြင့် ကျပ် သန်း တစ်ရာသတ်မှတ်၍ရှယ်ယာအချိုး အစား ကို အောက်ပါအတိုင်း ခွဲဝေရန်-

| | အစုရှယ်ယာ ပေါင်း | | |
|---|---|---|---|
| - မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုး ရေး ဦးစီး ဌာန | ၃၀၀၀ | ကျပ် ၃၀၀၀၀၀၀၀ | ၃၀% |
| - ဇေကမ္ဘာကုမ္ပဏီလီမိတက် | ၇၀၀၀ | ကျပ် ၇၀၀၀၀၀၀၀ | ၇၀% |
| စုစု ပေါင်း | ၁၀၀၀၀ | ကျပ်၁၀၀၀၀၀၀၀၀ | ၁၀၀ |

(စ) ဖက်စပ်ကုမ္ပဏီ၏ကနဦး မတည်ထည့်ဝင်ငွေ( Initial Paid-up Capital )အဖြစ် အောက်ပါအတိုင်း ထည့်ဝင်ရန်နှင့်မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုး ရေး ဦး စီး ဌာနမှထည့်ဝင်ရမည့်ကျပ် ၃၀၀၀၀၀၀ ကို ဇေကမ္ဘာကုမ္ပဏီမှထည့်ဝင် ပေး ရန်-

- မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေး ဦး စီး ဌာန၊ ကျပ် ၃၀၀၀၀၀၀ ၃၀%
- ဇေကမ္ဘာကုမ္ပဏီလီမိတက် ကျပ် ၇၀၀၀၀၀၀ ၇၀%

(ဆ) စီမံကိန်း ဆောင်ရွက်မည့် မြေ ၂၈၆ ဧကအား ဖွဲ့စည်း မည့်ဖက်စပ်ကုမ္ပဏီသို့အသုံး ပြုခွင့်ကိုတစ်ဧကလျှင်ကျပ် ၃၅ သိန်း နှုန်း ဖြင့်ကျပ်သိန်း ၁၀၀၁၀ တန်ဖိုး ထား ၍မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုး ရေး ဦးစီးဌာန၏ Interest Free Shareholder's Loan သတ်မှတ်ရန်၊

(ဇ) ဇေကမ္ဘာကုမ္ပဏီအနေဖြင့်စီမံကိန်း အကောင်အထည်ဖော်မှုအစီအစဉ် အရပြီး စီး သွား သောလုပ်ငန်း တန်ဖိုး များ ကိုလစဉ်ဒါရိုက်တာများ

အစည်းအဝေးတွင်ဆုံးဖြတ်အတည်ပြု၍စီမံကိန်းကုန်ကျစရိတ်ပေါင်းကျပ်သိန်း ၂၃၃၅၇ အထိဖောက်သူကုမ္ပဏီ၏ Interest Free Shareholder's Loan အဖြစ်သတ်မှတ်ထည့်ဝင်သွားရန်၊

(ဈ) ဖက်စပ်ကုမ္ပဏီမှတည်ဆောက်ပြီးစီးသည့်အိမ်ရာများအား ရောင်းချရသည့်ငွေများမှအထက်ဖော်ပြပါ Shareholder's Loan များနှင့်အချိုးကျအကျိုးအမြတ်ကိုအချိန်အခါအလိုက်ပြန်လည်ထုတ်ယူကြရန်၊

(ည) စီမံကိန်းလုပ်ငန်းလုပ်ဆောင်မှုအရဝင်ငွေနှင့်အသုံးစရိတ်များကို စနစ်တကျရေးသွင်းပြီး နောက်စာရင်းစစ်အတည်ပြုပြီး သောနှစ်ချုပ်ငွေစာရင်းမှအခွန်ဆောင်ပြီးအမြတ်ငွေကိုဒါရိုက်တာအဖွဲ့၏အစည်းအဝေးဆုံးဖြတ်ချက်ဖြင့်အစုရှယ်ယာအချိုးအစားအတိုင်း အောက်ပါအတိုင်းအချိုးကျခွဲဝေထုတ်ယူခံစားရန်၊

- မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန - ၃၀%
- ဖောက်သူကုမ္ပဏီလီမိတက် - ၇၀%

(ဋ) စီမံကိန်းတည်ဆောက်မှုကာလ(၄)နှစ်သတ်မှတ်ရန်၊

(ဌ) မြေငှားရမ်းကာလနှစ်(၆၀)သတ်မှတ်ရန်၊

(ဍ) ဖက်စပ်ကုမ္ပဏီမှဆောက်လုပ်ပြီးစီး၍ငှားရမ်းသည့်နေအိမ်များကို ဖက်စပ်ကုမ္ပဏီအမည်ဖြင့် မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနမှနှစ်(၆၀) မြေငှားဂရန်ထုတ်ပေးရန်၊

(ဎ) မြေငှားကာလကုန်ဆုံးပြီး (၃)လအတွင်း မြေနှင့်တကွမရွေ့မပြောင်းနိုင်သောပစ္စည်းများအားလုံးကိုဖက်စပ်ကုမ္ပဏီမှမြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနသို့ပြန်လည်လွှဲပြောင်းပေးရန်၊

၂။ အပိုဒ်(၁)ပါသဘောတူညီချက်များအရည့်ရှိ်င်းရေးသွင်းခဲ့သည့်ဖက်စပ်လုပ်ငန်းသဘောတူစာချုပ်(မူကြမ်း)နှင့်မြေငှားစာချုပ်(မူကြမ်း)များကိုရှေ့နေချုပ်ရုံးသို့ ရည်ညွှန်းချက်(၁)ပါစာဖြင့်စိစစ်ပြန်ကြားခဲ့ပြီး၍ရည်ညွှန်းချက်(၂)ပါစာဖြင့် ဝန်ကြီးရုံး၊ ဆောက်လုပ်ရေးဝန်ကြီးဌာနသို့သဘောတူခွင့်ပြုနိုင်ရန်တင်ပြခဲ့ပြီးဖြစ်ပါသည်။

၃။ သို့ဖြစ်ပါ၍ ဤဦးစီးဌာနနှင့် ဇေကမ္ဘာကုမ္ပဏီလီမိတက်တို့ပူးပေါင်း၍ Royal Mingalardon Golf & Country Club Co., Ltd အမည်ဖြင့် ဖက်စပ်ကုမ္ပဏီဖွဲ့စည်းကာ မင်္ဂလာဒုံမြို့နယ်တွင် နိုင်ငံတကာအဆင့်မီ ဂေါက်ကွင်းနှင့် အဆင့်မြင့်အိမ်ရာစီမံကိန်း ဆောင်ရွက်ခွင့်ပြုပါရန်နှင့်မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီအခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကိုခံစားခွင့်ပြုပါရန်တင်ပြအပ်ပါသည်။

၄။ ဤစာနှင့်အတူလုပ်ငန်းအဆိုပြုချက်(၁၂)စုံကိုပူးတွဲပေးပို့အပ်ပါသည်။

ညွှန်ကြားရေးမှူးချုပ်(ကိုယ်စား)
(သန်းကျော်-ညွှန်ကြားရေးမှူး၊ စီမံ+အိမ်ရာ)

မိတ္တူကို—
(၁) ဝန်ကြီးရုံး၊ ဆောက်လုပ်ရေးဝန်ကြီးဌာန။
(၂) ရုံးလက်ခံ။
(၃) မျှောစာတွဲ။

အောင်/*

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ

ဆောက်လုပ်ရေးဝန်ကြီးဌာန

စာအမှတ်၊ ၂၅/ ဒွဲ-၃/ ၉၇ ( စီ ၂၁၆၆ )

ရက်စွဲ ၊ ၁၉၉၇ ခုနှစ်၊ ဩဂုတ်လ ၃၁ ရက်

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရန်ကုန်မြို့

အကြောင်းအရာ။ **Royal Mingalardon Golf & Country Club Co., Ltd.တည်ထောင်၍ မင်္ဂလာဒုံမြို့နယ်တွင် နိုင်ငံတကာအဆင့်မီ ဂေါက်ကွင်းနှင့်အဆင့်မြင့်အိမ်ရာစီမံကိန်း လုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန်လုပ်ငန်းအဆိုပြု ချက်တင်ပြခြင်း**

ရည်ညွှန်းချက်။ ရွှေနေချုပ်ရုံး၏ ၁၉၉၇ ခုနှစ်၊ ဇူလိုင်လ ၂၀ ရက်နေ့စွဲပါစာအမှတ်၊ ၂(၄)၁/ ၁၂-၁၄၉(၄၁၁)

၁။ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနနှင့်ဖက်စပ်ပူးပေါင်း၍၊ မင်္ဂလာဒုံမြို့နယ်တွင်နိုင်ငံတကာအဆင့်မီဂေါက်ကွင်းနှင့်အဆင့်မြင့်အိမ်ရာစီမံကိန်း ဆောင်ရွက်လိုကြောင်း မြန်မာနိုင်ငံသားပိုင်ကုမ္ပဏီဖြစ်သည့် ဓာတကမ္ဘာကုမ္ပဏီလီမိတက်မှတင်ပြလာပါသဖြင့်လက်ခံတွေ့ဆုံဆွေးနွေးခဲ့ရာ အောက်ပါအတိုင်း ပဏာမသဘောတူညီချက်ရရှိခဲ့ပါသည်။

(က) မင်္ဂလာဒုံမြို့နယ်အမှတ်(၃)လမ်းမကြီး၏အရှေ့ဖက် မြေတိုင်းအမှတ်(၅၃၄ ဘီ) ဧရိယာ(၂၀၆)ကေရှိ မြေပေါ်တွင်စီမံကိန်းဆောင်ရွက်ရန်၊

(ခ) စီမံကိန်းလုပ်ငန်းများ အဖြစ်နိုင်ငံတကာအဆင့်မီ (၁၀) ကျင်းပါဂေါက်ကွင်း၊ တင်းနစ်ကွင်းနှင့်လုံးချင်းအိမ်ရာများ ပါဝင်သည့်အဆင့်မြင့်အိမ်ရာစီမံကိန်းများနှင့် ယင်းကိုနှင့်ဆက်စပ်သည့်အခြေခံအဆောက်အအုံများ(Infrastructure) အများပြည်သူဆိုင်ရာအဆောက်အအုံများ တည်ဆောက်ရန် ၊

(ဂ) အဆိုပါစီမံကိန်းကို မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန နှင့် ဇေကဗ္ဗာကုမ္ပဏီလီမိတက်တို့ပူးပေါင်း၍ Royal Mingalardon Golf & Country Club Co.,Ltd. အမည်ဖြင့် ဖက်စပ်ကုမ္ပဏီဖွဲ့စည်းတည်ထောင်ဆောင်ရွက်သွားရန်၊

(ဃ) ဖက်စပ်ကုမ္ပဏီဖွဲ့စည်းရာတွင် အစုရှယ်ယာထည့်ဝင်မှုအချိုးအစားကို အောက်ပါအတိုင်း သတ်မှတ်ရန် -

- မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန ၃၀ %
- ဇေကဗ္ဗာကုမ္ပဏီလီမိတက် ၇၀ %

(င) ဖက်စပ်ကုမ္ပဏီ၏မတည်ငွေရင်း Authorized Capital အား တစ်စုလျှင် ၁၀၀၀၀ိ/-တန်အစုရှယ်ယာပေါင်း ၁၀၀၀၀ ဖြင့် ကျပ်သန်းတစ်ရာသတ်မှတ်၍ ရှယ်ယာအချိုးအစားကို အောက်ပါအတိုင်း ခွဲဝေရန် -

| | အစုရှယ်ယာပေါင်း | | |
|---|---|---|---|
| - မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုး ရေးဦးစီးဌာန | ၃၀၀၀ | ကျပ် ၃၀၀၀၀၀၀၀ | ၃၀ % |
| - ဇေကဗ္ဗာကုမ္ပဏီလီမိတက် | ၇၀၀၀ | ကျပ် ၇၀၀၀၀၀၀၀ | ၇၀ % |
| စုစုပေါင်း | ၁၀၀၀၀ | ကျပ် ၁၀၀၀၀၀၀၀၀ | ၁၀၀ % |

(စ) ဖက်စပ်ကုမ္ပဏီ၏ကနဦးမတည်ထည့်ဝင်ငွေ Initial Paid-up Capital - အဖြစ် အောက်ပါအတိုင်း ထည့်ဝင်ရန်နှင့် မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနမှ ထည့်ဝင်ရမည့် ကျပ် - ၃၀၀၀၀၀၀ ကို ဇေကဗ္ဗာကုမ္ပဏီမှ ထည့်ဝင်ပေးရန် -

- မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုး ရေးဦးစီးဌာန ကျပ် ၃၀၀၀၀၀၀ ၃၀ %
- ဇေကဗ္ဗာကုမ္ပဏီလီမိတက် ကျပ် ၇၀၀၀၀၀၀ ၇၀ %

၃/-

(ဆ) စီမံကိန်း ဆောင်ရွက်မည့်မြေ ၂၈၆ ဧကအား ဖွံ့ဖြိုးမည့်ဖက်စပ်ကုမ္ပဏီသို့အသုံးပြုခွင့်ကိုတစ်ဧကလျှင်ကျပ် ၃၅ သိန်းနှုန်းဖြင့်ကျပ်သိန်း ၁၀၀၁၀ တန်ဖိုးထား၍ မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန၏ Interest Free Shareholder's Loan သတ်မှတ်ရန်၊

(ဇ) ဇေကမ္ဘာကုမ္ပဏီအနေဖြင့်စီမံကိန်းအကောင်အထည်ဖော်မှုအစီအစဉ်အရပြီးစီးသွားသောလုပ်ငန်းတန်ဖိုးများကိုလစဉ်ဒါရိုက်တာများအစည်းအဝေးတွင်ဆုံးဖြတ်အတည်ပြု၍၊ စီမံကိန်းကုန်ကျစရိတ်ပေါင်းကျပ်သိန်း ၂၃၃၅၇ အထိဇေကမ္ဘာကုမ္ပဏီ၏ Interest Free Shareholder's Loan အဖြစ်သတ်မှတ်ထည့်ဝင်သွားရန်၊

(ဈ) ဖက်စပ်ကုမ္ပဏီမှတည်ဆောက်ပြီးစီးသည့်အိမ်ရာများအားရောင်းချရသည့်ငွေများမှအထက်ဖော်ပြပါ Shareholder's Loan နှင့်အချိုးကျအကျိုးအမြတ်ကိုအချိန်အခါအလိုက်ပြန်လည်ထုတ်ယူကြရန်၊

(ည) စီမံကိန်းလုပ်ငန်းလုပ်ဆောင်မှုအရဝင်ငွေနှင့်အသုံးစရိတ်များကိုစနစ်တကျရေးသွင်းပြီးနောက်၊ စာရင်းစစ်အတည်ပြုပြီးသောနှစ်ချုပ်ငွေစာရင်းမှအခွန်ဆောင်ပြီးအမြတ်ငွေကိုဒါရိုက်တာအဖွဲ့၏အစည်းအဝေးဆုံးဖြတ်ချက်ဖြင့်အစုရှယ်ယာအချိုးအစားအတိုင်းအောက်ပါအတိုင်းခွဲဝေထုတ်ယူခံစားရန်-

- မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန ၃၀ %
- ဇေကမ္ဘာကုမ္ပဏီလီမိတက် ၇၀ %

(ဋ) စီမံကိန်းတည်ဆောက်မှုကာလ (၄) နှစ်သတ်မှတ်ရန်၊

(ဌ) မြေငှားရမ်းကာလနှစ် (၆၀) သတ်မှတ်ရန်၊

(ဍ) ဖက်စပ်ကုမ္ပဏီမှဆောက်လုပ်ပြီးစီး၍ငှားရမ်းသည့်နေအိမ်များကိုဖက်စပ်ကုမ္ပဏီအမည်ဖြင့်မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနမှနှစ် (၆၀) မြေငှားဂရန်ထုတ်ပေးရန်၊

(ဎ) မြေငှားကာလကုန်ဆုံးပြီး (၃) လအတွင်း မြေနှင့်တကွမရွှေ့မပြောင်းနိုင်သောပစ္စည်းများအားလုံးကိုဖက်စပ်ကုမ္ပဏီမှမြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနသို့ပြန်လည်လွှဲပြောင်းပေးရန်၊

၂။ အပိုဒ်(၁)ပါ သဘောတူညီချက်များ အရညှိနှိုင်း ရေး ဆွဲခဲ့သည့်ဖက်စပ်လုပ်ငန်း သဘောတူစာချုပ်(မူကြမ်း)နှင့်မြေငှား စာချုပ်(မူကြမ်း)များ ကို ရှေ့နေချုပ်ရုံး မှ ရည်ညွှန်း ချက် ပါ စာဖြင့်စိစစ်ပြန်ကြား ခဲ့ပြီး ဖြစ်ပါသည်။

၃။ သို့ဖြစ်ပါ၍၊ ဆောက်လုပ်ရေး ဝန်ကြီး ဌာန၊ မြို့ပြနှင့်အိုး အိမ်ဖွံ့ဖြိုး ရေး ဦး စီး ဌာနနှင့် ဇောကမ္ဘာကုမ္ပဏီလီမိတက်တို့ပူး ပေါင်း၍ Royal Mingalardon Golf & Country Club Co., Ltd . အမည်ဖြင့်ဖက်စပ်ကုမ္ပဏီဖွဲ့စည်း ကာ၊ မင်္ဂလာဒုံမြို့နယ်တွင်နိုင်ငံတကာအဆင့်မီ ဂေါက်ကွင်း နှင့် အဆင့် မြင့် အိမ်ရာစီမံကိန်း ဆောင်ရွက်ခွင့် ရ ရှိရေး နှင့်မြန်မာနိုင်ငံ သားများရင်းနှီး မြှုပ်နှံမှုဥပဒေနှင့်အညီအခွန်ကင်း လွတ်ခွင့်နှင့်သက်သာခွင့်များ ကိုခံစား ခွင့်ပြုပါရန်တင်ပြအပ်ပါသည်။

၄။ ဤစာနှင့်အတူလုပ်ငန်း အဆိုပြုချက်(၁၅)စုံကိုပူး တွဲပေး ပို့အပ်ပါသည်။

ဝန်ကြီး (ကိုယ်စား)

(မင်း သိမ်း ၊ ဝုံး အဖွဲ့မှူး)

မိတ္တူကို - ညွှန်ကြား ရေး မှူး ချုပ်၊
မြို့ပြနှင့်အိုး အိမ်ဖွံ့ဖြိုး ရေး ဦး စီး ဌာန။

မိုး



ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
ဆောက်လုပ်ရေးဝန်ကြီးဌာန
မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန
၂၂၈-၂၃၄၊ ဗိုလ်ချုပ်လမ်း
ရန်ကုန်မြို့

စာအမှတ်၊ အကတ/၁၃၇/၉၇/( ၈၇၈ )
ရက်စွဲ၊ ၁၉၉၇ခုနှစ် ၊ ဖြဂုတ်လ ၁၄ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့။

အကြောင်းအရာ။ **" Royal Mingalardon Golf & Country Club Co.,Ltd" တည်ထောင်၍မင်္ဂလာဒုံမြို့နယ်တွင်နိုင်ငံတကာအဆင့်မီဂေါက်ကွင်းနှင့်အဆင့်မြင့်အိမ်ရာစီမံကိန်းလုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန်အဆိုပြုတင်ပြခြင်း ။**

ရည်ညွှန်းချက်။ (၁) ရွှေနေချုပ်ရုံး၏(၂၀-၇-၉၇)ရက်စွဲပါစာအမှတ် ၊ ၂(၄)၁/၁၂-၁၄၉(၄၁၁)
(၂)ဤဦးစီးဌာန၏(၁၄-၈-၉၇)ရက်စွဲပါစာအမှတ် ၊ အကတ/၁၃၇/၉၇( ၈၇၇ )

၁။ ဤဦးစီးဌာနနှင့်ဖက်စပ်ပူးပေါင်း၍ မင်္ဂလာဒုံမြို့နယ်တွင်နိုင်ငံတကာအဆင့်မီ ဂေါက်ကွင်း နှင့် အဆင့်မြင့်အိမ်ရာစီမံကိန်း ဆောင်ရွက်လိုကြောင်း မြန်မာနိုင်ငံသား ပိုင်ကုမ္ပဏီဖြစ်သည့် ဇေကမ္ဘာကုမ္ပဏီလီမိတက်မှတင်ပြလာပါသဖြင့်လက်ခံတွေ့ဆုံဆွေးနွေးခဲ့ရာ အောက်ပါအတိုင်း ပဏာမသဘောတူညီချက်ရရှိခဲ့ပါသည်-

(က) မင်္ဂလာဒုံမြို့နယ် အမှတ်(၃)လမ်းမကြီး၏အရှေ့ဖက် မြေတိုင်းအမှတ် (၅၃၄ ဘီ) ဧရိယာ(၂၀၆) ဧကရှိ မြေပေါ်တွင်စီမံကိန်း ဆောင်ရွက်ရန်၊

(ခ) စီမံကိန်းလုပ်ငန်းများအဖြစ်နိုင်ငံတကာအဆင့်မီ(၁၈)ကျင်း ပါ ဂေါက်ကွင်း ၊ တင်းနစ်ကွင်း နှင့်လုံးချင်းအိမ်ရာများ ပါဝင်သည့် အဆင့်မြင့်အိမ်ရာစီမံကိန်းများ နှင့်ယင်းတို့နှင့်ဆက်စပ်သည့်အခြေခံ အဆောက်အအုံများ( Infrastructure ) အများပြည်သူဆိုင်ရာ အဆောက်အအုံများ တည်ဆောက်ရန်၊

(ဂ) အဆိုပါစီမံကိန်းကို မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာန နှင့် ဇေကမ္ဘာကုမ္ပဏီလီမိတက်တို့ပူးပေါင်း၍ " Royal Mingalardon Golf & Country Club Co., Ltd " အမည်ဖြင့်ဖက်စပ်ကုမ္ပဏီဖွဲ့စည်း တည်ထောင်ဆောင်ရွက်သွားရန်၊

(ဃ) ဖက်စပ်ကုမ္ပဏီဖွဲ့စည်းရာတွင်အစုရှယ်ယာ ထည့်ဝင်မှုအချိုးအစားကို အောက်ပါအတိုင်း သတ်မှတ်ရန်-

- မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာန ၃၀%
- ဇေကမ္ဘာကုမ္ပဏီလီမိတက် ၇၀%

(င) ဖက်စပ်ကုမ္ပဏီ၏မတည်ငွေရင်း Authorized Capital အား တစ်စုလျှင် ၁၀၀၀၀/-တန်အစုရှယ်ယာပေါင်း ၁၀၀၀၀ ဖြင့် ကျပ် သန်းတစ်ရာသတ်မှတ်၍ရှယ်ယာအချိုးအစားကို အောက်ပါအတိုင်း ခွဲဝေရန်-

| | အစုရှယ်ယာပေါင်း | | |
|---|---|---|---|
| - မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာန | ၃၀၀၀ | ကျပ် ၃၀၀၀၀၀၀၀ | ၃၀% |
| - ဇေကမ္ဘာကုမ္ပဏီလီမိတက် | ၇၀၀၀ | ကျပ် ၇၀၀၀၀၀၀၀ | ၇၀% |
| စုစုပေါင်း | ၁၀၀၀၀ | ကျပ်၁၀၀၀၀၀၀၀၀ | ၁၀၀% |

(စ) ဖက်စပ်ကုမ္ပဏီ၏ကနဦးမတည်ထည့်ဝင်ငွေ( Initial Paid-up Capital )အဖြစ် အောက်ပါအတိုင်း ထည့်ဝင်ရန်နှင့်မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာနမှထည့်ဝင်ရမည့်ကျပ် ၃၀၀၀၀၀၀ ကို ဇေကမ္ဘာကုမ္ပဏီမှထည့်ဝင်ပေးရန်-

- မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာန၊ ကျပ် ၃၀၀၀၀၀၀ ၃၀%
- ဇေကမ္ဘာကုမ္ပဏီလီမိတက် ကျပ် ၇၀၀၀၀၀၀ ၇၀%

(ဆ) စီမံကိန်းဆောင်ရွက်မည့်မြေ ၂၀၆ ဧကအား ဖွဲ့စည်းမည့်ဖက်စပ်ကုမ္ပဏီသို့အသုံးပြုခွင့်ကိုတစ်ဧကလျှင်ကျပ် ၃၅ သိန်းနှုန်းဖြင့်ကျပ်သိန်း ၁၀၀၁၀ တန်ဖိုးထား၍မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာန၏ Interest Free Shareholder's Loan သတ်မှတ်ရန်၊

(ဇ) ဇေကမ္ဘာကုမ္ပဏီအနေဖြင့်စီမံကိန်းအကောင်အထည်ဖော်မှုအစီအစဉ် အရပြီးစီးသွားသောလုပ်ငန်းတန်ဖိုးများကိုလစဉ်ဒါရိုက်တာများ

အစည်းအဝေး တွင်ဆုံးဖြတ်အတည်ပြု၍ စီမံကိန်း ကုန်ကျစရိတ် ပေါင်း ကျပ်သိန်း ၂၃၃၅၇ အယ်ဇေကမ္ဘာကုမ္ပဏီ၏ Interest Free Shareholder's Loan အဖြစ်သတ်မှတ်ထည့်ဝင်သွားရန်၊

(ဈ) ဖက်စပ်ကုမ္ပဏီမှတည်ဆောက်ပြီးစီးသည့်အိမ်ရာများအား ရောင်းချရသည့်ငွေများမှအထက်ဖော်ပြပါ Shareholder's Loan များနှင့်အနီး ကျအတိုး အမြတ်ကိုအချိန်အခါအလိုက်ပြန်လည်ထုတ်ယူကြရန်၊

(ည) စီမံကိန်းလုပ်ငန်းလုပ်ဆောင်မှုအရဝင်ငွေနှင့်အသုံးစရိတ်များကို စနစ်တကျရေးသွင်းပြီး နောက်စာရင်းစစ်အတည်ပြုပြီး သောနှစ်ချုပ်ငွေစာရင်းမှအခွန်ဆောင်ပြီး အမြတ်ငွေကိုဒါရိုက်တာအဖွဲ့၏အစည်းအဝေးဆုံးဖြတ်ချက်ဖြင့်အစုရှယ်ယာအချိုးအစားအတိုင်း အောက်ပါအတိုင်းအချိုးကျခွဲဝေထုတ်ယူခံစားရန်၊

- မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန - ၃၀%
- ဇေကမ္ဘာကုမ္ပဏီလီမိတက် - ၇၀%

(ဋ) စီမံကိန်းတည်ဆောက်မှုကာလ (၄) နှစ်သတ်မှတ်ရန်၊

(ဌ) မြေငှားရမ်းကာလနှစ် (၆၀) သတ်မှတ်ရန်၊

(ဍ) ဖက်စပ်ကုမ္ပဏီမှဆောက်လုပ်ပြီးစီး၍ငှားရမ်းသည့်နေအိမ်များကို ဖက်စပ်ကုမ္ပဏီအမည်ဖြင့် မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနမှနှစ် (၆၀) မြေငှားဂရန်ထုတ်ပေးရန်၊

(ဎ) မြေငှားကာလကုန်ဆုံးပြီး (၃) လအတွင်း မြေနှင့်တကွ မရွှေ့မပြောင်းနိုင်သောပစ္စည်းများအားလုံးကိုဖက်စပ်ကုမ္ပဏီမှမြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနသို့ပြန်လည်လွှဲပြောင်းပေးရန်၊

၂။ အပိုဒ် (၁) ပါသဘောတူညီချက်များအရညှိနှိုင်းရေးဆွဲခဲ့သည့်ဖက်စပ်လုပ်ငန်းသဘောတူစာချုပ် (မူကြမ်း) နှင့် မြေငှားစာချုပ် (မူကြမ်း) များကို ရှေ့နေချုပ်ရုံးသို့ ရည်ညွှန်းချက် (၁) ပါစာဖြင့်စိစစ်ပြန်ကြားခဲ့ပြီး၍ ရည်ညွှန်းချက် (၂) ပါစာဖြင့် ဝန်ကြီးရုံး၊ ဆောက်လုပ်ရေးဝန်ကြီးဌာနသို့သဘောတူခွင့်ပြုနိုင်ရန်တင်ပြခဲ့ပြီးဖြစ်ပါသည်။

၃။ သို့ဖြစ်ပါ၍ ဦးစီးဌာနနှင့် ဇေကမ္ဘာကုမ္ပဏီလီမိတက်တို့ပူးပေါင်း၍ Royal Mingalardon Golf & Country Club Co., Ltd အမည်ဖြင့် ဖက်စပ်ကုမ္ပဏီဖွဲ့စည်း၍ မင်္ဂလာဒုံမြို့နယ်တွင် နိုင်ငံတကာအဆင့်မီ ဂေါက်ကွင်းနှင့် အဆင့်မြင့်အိမ်ရာစီမံကိန်း ဆောင်ရွက်ခွင့်ပြုပါရန်နှင့်မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီအခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကိုခံစားခွင့်ပြုပါရန်တင်ပြအပ်ပါသည်။

၄။ ဤစာနှင့်အတူလုပ်ငန်းအဆိုပြုချက်(၁၂)စုံကိုပူးတွဲပေးပို့အပ်ပါသည်။

ညွှန်ကြားရေးမှူးချုပ်(ကိုယ်စား)
(သန်းကျော်-ညွှန်ကြားရေးမှူး၊စီမံ+အိမ်ရာ)

မိတ္တူကို-
(၁) ဝန်ကြီးရုံး၊ ဆောက်လုပ်ရေးဝန်ကြီးဌာန။
(၂) ရုံးလက်ခံ။
(၃) မျှောစာတွဲ။

အောင်/*

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
၆၅၃/၆၉၁၊ ကုန်သည်လမ်း၊ ရန်ကုန်မြို့။

Tel : 272052, 272870, 272912
Fax : 095-01-282101

စာအမှတ်၊ ရက-၁/မ-၁၄၁/၉၈ (၂၀၃၂)
ရက်စွဲ၊ ၁၉၉၈ ခုနှစ်၊ ဇွန်လ ၅ ရက်။

အကြောင်းအရာ။ လုပ်ငန်းသုံးအတွက် စက်ပစ္စည်းများ တင်သွင်းရန် ကိစ္စ။

ရည်ညွှန်းချက်။ ဤကော်မရှင်၏ ၃၁-၃-၉၈ ရက်စွဲပါ စာအမှတ်၊ ရက-၁/မ-၁၄၁/၉၇(၂၈၄၂)။

၁။ အထက် ရည်ညွှန်းပါစာဖြင့် ရွှိုင်ရယ် မင်္ဂလာဒုံ ဂေါ့ဖ် အင်န် ကန်းထရီး ကလပ် ကုမ္ပဏီ လီမိတက် (Royal Mingaladon Golf & Country Club Co., Ltd.) အတွက် လုပ်ငန်းသုံး မော်တော်ယာဉ်နှင့် စက်ပစ္စည်းများ တင်သွင်းခွင့် ပြုရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၃/၉၈) ကြိမ်မြောက် ကြိုတင်ညှိနှိုင်း အစည်းအဝေး ဆုံးဖြတ်ချက်ကို အကြောင်းကြားခဲ့ပြီး ဖြစ်ပါသည်။

၂။ အဆိုပါ လုပ်ငန်း အဆိုပြုချက်ကို မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၉-၂-၉၈)နေ့တွင် ကျင်းပသော (၃/၉၈) ကြိမ်မြောက် အစည်းအဝေးသို့ ဆက်လက် တင်ပြခဲ့ရာ အစည်းအဝေးမှ ဂေါက်ကွင်း တည်ဆောက်ရေး အတွက် Excavator 3(Three) Units တင်သွင်းခွင့် ပြုကြောင်း ဆုံးဖြတ်ခဲ့ ပါသည်။

၃။ သို့ဖြစ်ပါ၍ အဆိုပါ နောက်ဆက်တွဲ ဆုံးဖြတ်ချက် ကိုလိုအပ်သလို ဆောင်ရွက်နိုင်ရန်နှင့် စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာနသို့ လုပ်ထုံးလုပ်နည်းများနှင့်အညီ သွင်းကုန်လိုင်စင် လျှောက်ထားရယူရန် လိုအပ်ကြောင်း အကြောင်းကြားအပ်ပါသည်။

( မောင်မောင်ရီ )
တွဲဖက်အတွင်းရေးမှူး

<u>အုပ်ချုပ်မှု ဒါရိုက်တာ</u>
<u>ရွှိုင်ရယ် မင်္ဂလာဒုံ ဂေါ့ဖ် အင်န် ကန်းထရီး ကလပ် ကုမ္ပဏီ လီမိတက်။</u>
တဆင့်/ <u>မြို့ရွာ နှင့် အိုးအိမ် ဖွံ့ဖြိုးရေး ဦးစီးဌာန။</u>
မိတ္တူကို -
(၁) စီးပွားရေး နှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။
(၂) ဘဏ္ဍာရေး နှင့် အခွန် ဝန်ကြီးဌာန။
(၃) ဆောက်လုပ်ရေး ဝန်ကြီးဌာန။
(၄) ဥက္ကဋ္ဌ၊ နိုင်ငံခြားမတည်ငွေရင်း တန်ဖိုး သတ်မှတ်ရေး အဖွဲ့ငယ် (ညွှန်ကြားရေးမှူးချုပ်၊ ဗဟိုစက်ပစ္စည်း စာရင်းအင်း နှင့် စစ်ဆေးရေး ဦးစီးဌာန)။
(၅) ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။
(၆) ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။
(၇) ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်း အခွန်များ ဦးစီးဌာန။
(၈) ညွှန်ကြားရေးမှူးချုပ်၊ မြို့ရွာ နှင့် အိုးအိမ် ဖွံ့ဖြိုးရေး ဦးစီးဌာန ။
(၉) အုပ်ချုပ်မှု ဒါရိုက်တာ၊ ဇေကမ္ဘာ ကုမ္ပဏီ လီမိတက်။

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်**
၆၅၃/၆၉၁၊ ကုန်သည်လမ်း၊ ရန်ကုန်မြို့။

Tel : 272052, 272870, 272912
Fax : 095-01-282101

စာအမှတ်၊ ရက-၁/မ-၁၄၁/၉၇ (၂၈၄၅)
ရက်စွဲ၊ ၁၉၉၈ ခုနှစ်၊ မတ်လ ၃၇ ရက်။

**အကြောင်းအရာ။ လုပ်ငန်းသုံးအတွက် မော်တော်ယာဉ်နှင့် စက်ပစ္စည်းများ တင်သွင်းရန် ကိစ္စ။**

၁။ ရွိုင်ရယ် မင်္ဂလာဒုံ ဂေါ့ဖ် အင်န် ကန်းထရီး ကလပ် ကုမ္ပဏီ လီမိတက် (Royal Mingaladon Golf & Country Club Co., Ltd.) တည်ထောင်၍ နိုင်ငံတကာအဆင့်မီ (၁၈)ကျင်းပါ ဂေါက်ကွင်း၊ တင်းနစ်ကွင်း၊ ရေကူးကန် နှင့် အဆင့်မြင့် လုံးချင်းအိမ် (၁၀၀)လုံး တည်ဆောက်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ကို မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၃/၉၈) ကြိမ်မြောက် ကြိုတင်ညှိနှိုင်း အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၂။ အဆိုပါအစည်းအဝေးမှ လုပ်ငန်းအတွက် မော်တော်ယာဉ်များ တင်သွင်းမှုနှင့် ပတ်သက်၍ တည်ဆောက်ရေး ကာလ အတွင်း Saloon 1(one) No., Pick-up 1(one) No. and Mini-Bus 1(one) No. တို့ကို အခွန်အကောက် ကင်းလွတ်ခွင့်ဖြင့် လည်းကောင်း၊ လုပ်ငန်း စတင်ဆောင်ရွက်သည့် အချိန်တွင် Saloon 1(one) No., Pick-up 1(one) No. and Mini-Bus 1(one) No. တို့ကို အခွန်အကောက် (၅၀)ရာခိုင်နှုန်း သက်သာခွင့်ဖြင့် လည်းကောင်း တင်သွင်းခွင့်ပြုကြောင်းနှင့် တင်သွင်းမည့် စက်ပစ္စည်းများ စာရင်းတွင် Buggie Golf Car 20(twenty) Nos., Tipper Truck 10(ten) Nos., Air Conditioner 1 HP 175(one hundred and seventy five) Units, 1.5 HP 175(One hundred and Seventy Five) Units and Road Roller 2(two) Nos. တို့ကို တင်သွင်းခွင့် ပြုခဲ့ပြီး Game Machine 10(ten) Nos. နှင့် Golf Equipment and Accessories ကို တင်သွင်းရန် ခွင့်မပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။

၃။ သို့ဖြစ်ပါ၍ အဆိုပါ ဆုံးဖြတ်ချက်ကိုလိုအပ်သလိုဆောင်ရွက်နိုင်ရန်နှင့်မော်တော်ယာဉ်များတင်သွင်းရာတွင် စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာနသို့ လုပ်ထုံးလုပ်နည်းများနှင့်အညီ သွင်းကုန်လိုင်စင် လျှောက်ထား ရယူရန် လိုအပ်ကြောင်း အကြောင်းကြားအပ်ပါသည်။

( မောင်မောင်ရှိ )
တွဲဖက်အတွင်းရေးမှူး

<u>အုပ်ချုပ်မှု ဒါရိုက်တာ</u>
<u>ရွိုင်ရယ် မင်္ဂလာဒုံ ဂေါ့ဖ် အင်န် ကန်းထရီး ကလပ် ကုမ္ပဏီ လီမိတက်။</u>
တစ်ဆင့် <u>မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာန။</u>
မိတ္တူကို -
(၁) စီးပွားရေး နှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။
(၂) ဘဏ္ဍာရေး နှင့် အခွန် ဝန်ကြီးဌာန။
(၃) ဆောက်လုပ်ရေး ဝန်ကြီးဌာန။

(၄) ဥက္ကဋ္ဌ၊ နိုင်ငံခြားမတည်ငွေရင်း တန်ဖိုး သတ်မှတ်ရေး အဖွဲ့ငယ် (ညွှန်ကြားရေးမှူးချုပ်၊ ဗဟိုစက်ပစ္စည်း စာရင်းအင်း နှင့် စစ်ဆေးရေး ဦးစီးဌာန)။

(၅) ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။

(၆) ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။

(၇) ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်း အခွန်များ ဦးစီးဌာန။

(၈) ညွှန်ကြားရေးမှူးချုပ်၊ မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာန။

(၉) အုပ်ချုပ်မှု ဒါရိုက်တာ၊ ဧကမ္ဘာ ကုမ္ပဏီ လီမိတက်။

ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း မြန်မာနိုင်ငံသားများ

ရင်းနှီးမြှုပ်နှံမှုပြုလုပ်ရန် ရင်းနှီးမြှုပ်နှံလိုသူ ဆောင်ရွက်ရန်

အဆိုပြုချက်

# ရွိုင်ရယ်မင်္ဂလာဒုံဂေါ့ဖ်အင်န်ကန်းထရီးကလပ်
# ကုမ္ပဏီလီမိတက်



**PROPOSAL OF THE INVESTOR TO MAKE**

**MYANMAR CITIZENS INVESTMENT IN THE**

**UNION OF MYANMAR**

## ROYAL MINGALARDON GOLF AND COUNTRY CLUB COMPANY LIMITED

# ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ

## ဆောက်လုပ်ရေးဝန်ကြီးဌာန

စာအမှတ်၊ ၂၅/ ခွဲ-၃ / ၉၇ ( စီ ၄၇၅ )
ရက်စွဲ၊ ၁၉၉၈ ခုနှစ်၊ ဖေဖော်ဝါရီလ ၁၁ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့

အကြောင်းအရာ။ နိုင်ငံတကာအဆင့်မီ ဂေါက်ကွင်းနှင့်အဆင့်မြင့်အိမ်ရာစီမံကိန်း ဆောင်ရွက်ခွင့်ပြုပါရန်အဆိုပြုချက်တင်ပြခြင်း

ရည်ညွှန်းချက်။ ဤဝန်ကြီးရုံး၏ ၁၉၉၈ ခုနှစ်၊ ဖေဖော်ဝါရီလ ၃ ရက်နေ့စွဲပါစာအမှတ်၊ ၂၅/ ခွဲ-၃/၉၇ ( စီ ၃၆၄ )

ဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနနှင့်မြန်မာနိုင်ငံသားပိုင် ဇောကမ္ဘာကုမ္ပဏီလီမိတက်တို့အကျိုးတူပူးပေါင်း၍ Royal Mingalardon Golf & Country Clup Co,. Ltd အမည်ဖြင့် ဖက်စပ်ကုမ္ပဏီဖွဲ့စည်းတည်ထောင်ပြီး မင်္ဂလာဒုံမြို့နယ်တွင်နိုင်ငံတကာအဆင့်မီ ဂေါက်ကွင်းနှင့်အဆင့်မြင့်အိမ်ရာစီမံကိန်း ဆောင်ရွက်ခွင့်ပြုရန် တင်ပြခဲ့သည့် အဆိုပြုချက်ကို ၁၉၉၈ ခုနှစ်၊ ဖေဖော်ဝါရီလ ၉ ရက်နေ့တွင်ကျင်းပသောမြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ( ၃ / ၉၈ ) ကြိမ်မြောက်အစည်းအဝေးမှ သဘောတူညီပြီးဖြစ်ပါ၍ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့ အစည်းအဝေးသို့ဆက်လက်တင်ပြနိုင်ရန်လုပ်ငန်းအဆိုပြုချက် ( ၂၅ ) စုံကိုပူးတွဲပေးပို့အပ်ပါသည်။

ဝန်ကြီး ( ကိုယ်စား )
( မင်းသိမ်း ၊ ရုံးအဖွဲ့မှူး )

မိတ္တူကို- ညွှန်ကြားရေးမှူးချုပ်၊
မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန။

သမ*



# ZAYKABAR Company Limited

GROUND FLOOR SUITE, (3), 8 MILE JUNCTION, PYAY ROAD, YANGON, MYANMAR.
TEL : 64920, 64876, TLX : 21525 ZAYCO BM FAX : 65052 (MYANMAR)

စာအမှတ်၊ ၁၃၄/ ဇက်ကော်/ ၉၈
ရက်စွဲ၊ ၁၉၉၈ခု၊ ဖေဖော်ဝါရီလ (၂၀)ရက်

သို့

ညွှန်ကြားရေးမှူးချုပ်
မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန
ဆောက်လုပ်ရေးဝန်ကြီးဌာန
ရန်ကုန်မြို့။

အကြောင်းအရာ ။ **။နိုင်ငံတကာအဆင့်မီဂေါက်ကွင်းတည်ဆောက်ရန်အဆိုပြုချက်တင်ပြခြင်း။**

မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနနှင့် ဇေကမ္ဘာကုမ္ပဏီလီမိတက်တို့ နှစ်ဖက်အကျိုးတူပူးပေါင်းလျက် "ရွှေပြည်ရယ် မင်္ဂလာဒုံဂေါ့ဖ်အင်န်ကန်းထရီးကလပ်ကုမ္ပဏီလီမိတက်"ကို ဖွဲ့စည်းတည်ထောင်ပြီး နိုင်ငံတကာအဆင့်မီဂေါက်ကွင်းတစ်ကွင်း တည်ဆောက် အကောင်အထည်ဖော်ဆောင်ရွက်နိုင်ရေးအတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှတဆင့် ပြည်ထောင်စုမြန်မာ နိုင်ငံတော်အစိုးရအဖွဲ့သို့တင်ပြမည့် အဆိုပြုတင်ပြချက် ကို လိုအပ်သလိုဆောင်ရွက်နိုင်ပါရန် တင်ပြအပ်ပါသည်။

**ပူးတွဲပါ** ၁။ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ ရင်းနှီးမြှုပ်နှံလိုသူ၏အဆိုပြုချက်
၂။ စီးပွားရေးတွက်ခြေကိုက်မှုရှိ/မရှိတင်ပြချက်
၃။ စီမံကိန်းနှင့်ပတ်သက်၍အနှစ်ချုပ်တင်ပြချက်
၄။ ရှေ့နေချုပ်ရုံး၏သဘောထားမှတ်ချက်
၅။ ဖက်စပ်လုပ်ငန်းသဘောတူစာချုပ်
၆။ မြေငှါးစာချုပ်
၇။ တည်ဆောက်မည့်နေရာပြမြေပုံနှင့် ဆောက်လုပ်မည့်အဆောက်အဦးပုံစံများ

လေးစားစွာဖြင့်

(ခင်ရွှေ)
အုပ်ချုပ်မှုဒါရိုက်တာ



# ZAYKABAR Company Limited

GROUND FLOOR SUITE, (3), 8 MILE JUNCTION, PYAY ROAD, YANGON, MYANMAR.
TEL : 64920, 64876, TLX : 21525 ZAYCO BM FAX : 65052 (MYANMAR)

သို့

ဥက္ကဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့။

စာအမှတ်။ ၁၄၃ / ဇက်ကော်ဘီ / ၉၈
ရက်စွဲ ။ ၁၉၉၈ခု၊ ဖေဖော်ဝါရီလ(၁၇)ရက်

အကြောင်းအရာ ။ **။ခွင့်ပြုမိန့်ရရှိရေးအတွက် အဆိုပြုတင်ပြခြင်း။**

၁။ ကျွန်တော်များ ဇေကမ္ဘာကုမ္ပဏီလီမိတက်အနေနှင့် "ရွှင်ရယ်မင်္ဂလာဒုံဂေါ့ဖ်အင်န်ကန်းထရီးကလပ် ကုမ္ပဏီလီမိတက်" အမည်ဖြင့် နိုင်ငံတကာအဆင့်မီ ၁၈ကျင်းပါဂေါက်ကွင်းနှင့် ရေကူးကန်၊ တင်းနစ်ကွင်း၊ အဆင့်မြင့်လုံးချင်းအိမ် ၁၀၀လုံးတို့ကို မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနပိုင်မြေ ၂၈၆ဧကပေါ်တွင် မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနမှ ၃၀ %နှင့်ဇေကမ္ဘာကုမ္ပဏီ လီမိတက်မှ ၇၀ % ဖြင့်အကျိုးတူပူးပေါင်း၍ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဥပဒေအရ တည်ဆောက်မည်ဖြစ်ပါ၍ ဥပဒေလိုအပ်ချက်များနှင့်အညီ စာချုပ်များကိုလည်းကောင်း၊ စီးပွားရေးတွက်ခြေကိုက်မှုကိုလည်းကောင်း ပြန်လည်တွက်ချက်၍ ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့သို့ တင်ပြမည့်အဆိုပြုတင်ပြချက်ကို လိုအပ်သလိုဆောင်ရွက်နိုင်ပါရန် တင်ပြအပ်ပါသည်။

၂။ ၎င်းပြင် ကျွန်တော်များအနေဖြင့် ရွှင်ရယ်မင်္ဂလာဒုံဂေါ့ဖ်အင်န်ကန်းထရီးကလပ် ကုမ္ပဏီလီမိတက် တည်ထောင်ပြီး ဖေါ်ပြပါ လုပ်ငန်းများဆောင်ရွက်ခြင်းဖြင့် အောက်ပါအခွင့်အလမ်းများ ရရှိပေါ်ပေါက်နိုင်ပါကြောင်း တဆက်တည်းတင်ပြလိုပါသည်။

(က) အလုပ်အကိုင်အခွင့်အလမ်းများပေါ်ပေါက်ခြင်း၊
(ခ) အမျိုးသားဝင်ငွေတိုးတက်ရရှိနိုင်ခြင်း၊
(ဂ) နိုင်ငံတော်အတွက်အခွန်ဘဏ္ဍာများတိုးပွားရရှိနိုင်ခြင်း၊
(ဃ) နိုင်ငံတော်အတွက်နိုင်ငံခြားသုံးငွေရရှိနိုင်ခြင်း၊
(င) ပတ်ဝန်းကျင်းစိမ်းလန်းစိုပြေသာယာရေးကိုအထောက်အကူပြုခြင်း။

၃။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အနေနှင့် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေအခန်း(၇) အပိုဒ် ၁၂နှင့် ၁၃ အရ အခွန်ဆိုင်ရာလွတ်ငြိမ်းခွင့်နှင့် သက်သာခွင့်များပါခွင့်ပြုနိုင်ပါရန် တင်ပြအပ်ပါသည်။

၄။ ဤခွင့်ပြုချက်မိန့်တောင်းခံလွှာနှင့်အတူ လိုအပ်သည့်စာရွက်စာတမ်းများကို ပူးတွဲတင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

(ခင်ရွှေ)
အုပ်ချုပ်မှုဒါရိုက်တာ

ပူးတွဲပါ–
(၁) မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ ရင်းနှီးမြှုပ်နှံလိုသူ၏ အဆိုပြုချက်
(၂) စီပွားရေးတွက်ချေကိုက်မှုရှိ/ မရှိတင်ပြချက်များ
(၃) စီမံကိန်းနှင့်ပတ်သက်၍ အနှစ်ချုပ်တင်ပြချက်
(၄) ရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်
(၅) ဖက်စပ်လုပ်ငန်းသဘောတူစာချုပ်
(၆) မြေငှါးစာချုပ်
(၇) တည်ဆောက်မည့်နေရာပြ မြေပုံနှင့် ဆောက်လုပ်မည့်အဆောက်အဦးပုံစံများ



# ZAYKABAR Company Limited

GROUND FLOOR SUITE, (3), 8 MILE JUNCTION, PYAY ROAD, YANGON, MYANMAR.
TEL : 64920, 64876, TLX : 21525 ZAYCO BM FAX : 65052 (MYANMAR)

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့။

ရက်စွဲ။ ၁၉၉၈ခု၊ ဖေဖော်ဝါရီလ ( ၂၀ )ရက်

အကြောင်းအရာ။ ။ **ခံဝန်ချက်တင်ပြခြင်း**

ကျွန်တော်များ ဇေကမ္ဘာကုမ္ပဏီလီမိတက်နှင့် ဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနတို့ နှစ်ဖက်အကျိုးတူပူးပေါင်းဆောင်ရွက်လျက် "ရွှေင်ရယ်မင်္ဂလာဒုံ ဂေါ့ဖ်အင်ကန်းထရီးကလပ် ကုမ္ပဏီလီမိတက်"ကို ဖွဲ့စည်းတည်ထောင်ပြီး နိုင်ငံတကာအဆင့်မီ ဂေါက်ကွင်းတစ်ကွင်းတည်ဆောက်နိုင်ရေးအတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြသည့်အဆိုပြုချက်နှင့် စပ်လျဉ်း၍ အောက်ပါခံဝန်ချက်များကို တင်ပြအပ်ပါသည်။

၁။ ကျွန်တော်များဇေကမ္ဘာကုမ္ပဏီလီမိတက်သည် နိုင်ငံသားပိုင်ကုမ္ပဏီဖြစ်ပြီး နိုင်ငံခြားသားများ၏အစုရှယ်ယာပါဝင်မှု၊ နိုင်ငံခြားသားများ ပိုင်ဆိုင်မှုမရှိပါကြောင်း ဝန်ခံကတိပြုပါသည်။

၂။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ကျွန်တော်များဇေကမ္ဘာကုမ္ပဏီလီမိတက်၏ အဆိုပြုတင်ပြချက်ကိုခွင့်ပြုပါက လုပ်ငန်းများအကောင်အထည်ဖော်ဆောင်ရွက်ရာတွင် ပြည်ထောင်စုမြန်မာနိုင်ငံတော်၏ တည်ဆဲဥပဒေ၊ နည်းဥပဒေ၊ ညွှန်ကြားချက်များအရ မြေငှါးစည်းကမ်းများကို အတိအကျလိုက်နာဆောင်ရွက်မည်ဖြစ်ပါကြောင်း ဝန်ခံကတိပြုပါသည်။

၃။ လုပ်ငန်းဆောင်ရွက်ရာတွင် ရေဆိုးများမရှိစေရန်အတွက် စွန့်ပစ်စနစ်တည်ဆောက်အကောင်အထည်ဖော်ရေးနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှု မဖြစ်စေရေးဆိုင်ရာ အစီအမံများကို ပြည်ထောင်စုမြန်မာနိုင်ငံတော်၏ တည်ဆဲဥပဒေ၊ နည်းဥပဒေ၊ ညွှန်ကြားချက်များနှင့်အညီ လိုက်နာဆောင်ရွက်မည်ဖြစ်ပါကြောင်း၊ ဝန်ခံကတိပြုပါသည်။

၄။ အဆိုပြုတင်ပြချက်ပါ Supplier Credit Agreement အရ ချေးငွေကိုပြန်လည်ပေးဆပ်ရာတွင် ကျွန်တော်များဇေကမ္ဘာကုမ္ပဏီလီမိတက်သည် အဆိုပြုလုပ်ငန်းမှ တရားဝင်ရရှိသည့် နိုင်ငံခြားသုံးငွေ Official FE earning ဖြင့်သာပြန်လည်ပေးဆပ်မည်ဖြစ်ပါကြောင်း ဝန်ခံကတိပြုပါသည်။

လေးစားစွာဖြင့်

(ခင်ရွှေ)
အုပ်ချုပ်မှုဒါရိုက်တာ

## မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ
## ရင်းနှီးမြှုပ်နှံလိုသူ၏ အဆိုပြုချက်

သို့

ဥက္ကဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်
ရန်ကုန်မြို့၊

စာအမှတ်၊ ၁၅၂/ ဇက်ကောဘီ/ ၉၈
ရက်စွဲ၊ ၁၉၉၈ ခုနှစ်၊ ဖေဖော်ဝါရီလ ( ၁၀ )ရက်

ကျွန်တော်/ကျွန်မသည် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုပါသဖြင့် ခွင့်ပြုမိန့်ထုတ်ပေးပါရန် အောက်ပါအချက်များကို ဖော်ပြ၍ လျှောက်ထားအပ်ပါသည်။

၁။ ရင်းနှီးမြှုပ်နှံလိုသူ၏ –

| | | |
|---|---|---|
| (က) | အမည် | ဦးအုံကျော် |
| (ခ) | အဖအမည် | ဦးကြင်စိန် |
| (ဂ) | အမျိုးသားမှတ်ပုံတင်အမှတ် | ဒဂလျူကေအေ ၀၀၄၆၆၅ |
| (ဃ) | နေရပ်လိပ်စာ | အမှတ်(၂၂၀/၂၃၄)၊ ဗိုလ်ချုပ်အောင်ဆန်းလမ်း၊ ရန်ကုန်မြို့။ |
| (င) | လူမျိုး၊ ဘာသာ | ဗုဒ္ဓဘာသာ၊ မြန်မာလူမျိုး |
| (စ) | အဖွဲ့အစည်းအမည် | မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန |
| (ဆ) | လုပ်ငန်းအမျိုးအစား | အစိုးရဌာန |
| (ဇ) | အဖွဲ့အစည်းတည်ရှိရာအရပ် | အမှတ်(၂၂၀/၂၃၄)၊ ဗိုလ်ချုပ်အောင်ဆန်းလမ်း၊ ရန်ကုန်မြို့။ |

၂။ ဖက်စပ်ပြုလုပ်၍ ရင်းနှီးမြှုပ်နှံလိုပါက၊ ဖက်စပ်ပြုလုပ်မည့်သူများ၏ –

| | | |
|---|---|---|
| (က) | အမည် | ဦးခင်ရွှေ |
| (ခ) | အဖအမည် | ဦးစောညွန့် |
| (ဂ) | အမျိုးသားမှတ်ပုံတင်အမှတ် | အမ်အမ်အန် ၅၆၁၆၅၄ |
| (ဃ) | နေရပ်လိပ်စာ | အမှတ်၇၇(အက်ဖ်)၊ တက္ကသိုလ်ရိပ်သာလမ်း၊ ဗဟန်းမြို့နယ်၊ ရန်ကုန်မြို့။ |
| (င) | လူမျိုး၊ ဘာသာ | ဗုဒ္ဓဘာသာ၊ မြန်မာလူမျိုး |
| (စ) | အဖွဲ့အစည်းအမည် | ဇေကမ္ဘာကုမ္ပဏီလီမိတက် |
| (ဆ) | လုပ်ငန်းအမျိုးအစား | ဝန်ဆောင်မှုလုပ်ငန်း |
| (ဇ) | အဖွဲ့အစည်းတည်ရှိရာအရပ် | မြေညီထပ်၊ တိုက်(၃)၊ ၈–မိုင်လမ်းဆုံ၊ ပြည်လမ်း၊ မရမ်းကုန်းမြို့နယ်၊ ရန်ကုန်မြို့။ |

၃– ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့် လုပ်ငန်းအမျိုးအစား –

| | | |
|---|---|---|
| (က) | ကုန်ထုတ်လုပ်ငန်း | ...................................... |
| (ခ) | ဝန်ဆောင်မှုလုပ်ငန်း | နိုင်ငံတကာအဆင့်မီ ၁၈ ကျင်းပါ ဂေါက်ကွင်း၊ရေကူးကန်၊ တင်းနစ်ကွင်း၊ အဆင့်မြင့်လုံးချင်းအိမ်ရာ ၁၀၀ တို့ကို တည်ဆောက်ရန်။ |

၄။ လုပ်ကိုင်မည့်စီးပွားရေးပုံစံ -

(က) နိုင်ငံသားနှင့်နိုင်ငံသားတို့က အစုစပ်လုပ်ကိုင်ဆောင်ရွက်ခြင်း

.................................................................................................

(ခ) အဖွဲ့အစည်းနှင့် နိုင်ငံသားတို့က ဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း
ရွှင်ရယ်မင်္ဂလာဒုံဂေါ့ဖ်အင်န်ကန်းထရီးကလပ် ကုမ္ပဏီလီမိတက် ကိုတည်ထောင်၍
မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနနှင့် ဇေကမ္ဘာကုမ္ပဏီလီမိတက်တို့ဖက်စပ်လုပ်ကိုင်ခြင်း

(ဂ) အဖွဲ့အစည်းနှင့် အခြားအဖွဲ့အစည်းတို့က ဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း

.................................................................................................

၅။ ဖွဲ့စည်းထားပြီးဖြစ်သည့် သို့မဟုတ် ဖွဲ့စည်းမည့် စီးပွားရေးအဖွဲ့အစည်းပုံသဏ္ဌာန်

(က) တစ်ဦးတည်းပိုင် .......................................................

(ခ) ဖက်စပ်/ အစုစပ်လုပ်ငန်း .......................................................

(ဂ) လီမိတက်ကုမ္ပဏီ ရွှင်ရယ်မင်္ဂလာဒုံဂေါ့ဖ်အင်န်ကန်းထရီးကလပ် ကုမ္ပဏီလီမိတက်

(ဃ) သမဝါယမအသင်း .......................................................

(အများနှင့်မသက်ဆိုင်သည့်ကုမ္ပဏီ/ အများပိုင်ကုမ္ပဏီဟု ဖော်ပြ၍ ထည့်ဝင်မည့်မတည်ငွေရင်း အချိုးအစား၊ စီမံခန့်ခွဲသူ/ စီမံခန့်ခွဲမည့်သူများ၏ အမည်၊ နေရပ်လိပ်စာများနှင့် ရာထူးကို ပူးတွဲတင်ပြရန်)

အများနှင့်မသက်ဆိုင်သောကုမ္ပဏီ

(၁) မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးမှုဦးစီးဌာန (ကိုယ်စားပြုသူ)
ဦးအုံးကျော် (ညွှန်ကြားရေးမှူးချုပ်) ၃၀%
(၂၂၈/၂၃၄)၊ ဗိုလ်ချုပ်အောင်ဆန်းလမ်း၊ ရန်ကုန်မြို့။

(၂) ဇေကမ္ဘာကုမ္ပဏီလီမိတက် (ကိုယ်စားပြုသူ)
ဦးခင်ရွှေ (အုပ်ချုပ်မှုဒါရိုက်တာ) ၇၀%
အမှတ်(၇၇[အက်ဖ်])၊ တက္ကသိုလ်ရိပ်သာလမ်း၊ ဗဟန်းမြို့နယ်၊ ရန်ကုန်မြို့။

၆။ ဖက်စပ်/ အစုစပ်လုပ်ငန်းဖြစ်ပါက -

(က) အစုစပ်ဝင်တို့က ထည့်ဝင်မည့် အစုငွေအချိုးအစားနှင့် ပမာဏ ...........................

| | ငွေပမာဏ(ကျပ်ထောင်ပေါင်း) | အချိုးအစား |
|---|---|---|
| DHSHD | ၁,၀၀၁,၀၀၀ | ၃၀% |
| ZKB | ၂,၃၃၅,၇၀၀ | ၇၀% |

(ခ) အကျိုးအမြတ်ခွဲဝေမည့် အချိုးအစား .......... ၃၀ : ၇၀ ................

(ဂ) အစုစပ်ဝင်များ၏ တာဝန်နှင့်လုပ်ပိုင်ခွင့်များ .......................................

၇။ သမဝါယမအသင်း/ လီမိတက် ကုမ္ပဏီဖြစ်ပါက -

(က) ခွင့်ပြုမတည်ငွေရင်း ................ ကျပ်သန်း ၁၀၀ * ................

(ခ) အစုရှယ်ယာအမျိုးအစား .......................................................

(ဂ) အစုရှယ်ယာဝင်များက ထည့်ဝင်မည့်အစုရှယ်ယာပမာဏ ကျပ် ၁၀ သန်း................

* လုပ်ငန်းဆောင်ရွက်ရာတွင် ထည့်ဝင်မည့်အစုရှယ်ယာများနှင့်လိုက်လျောညီထွေဖြစ်စေရန်အတွက် ခွင့်ပြုမတည်ငွေရင်းကို တိုးမြှင့်သွားမည်ဖြစ်ပါသည်။

၈။ ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့် အဖွဲ့အစည်းနှင့်သက်ဆိုင်သော အချက်အလက်များ -

(က) မတည်ငွေရင်းပမာဏ(ကျပ်) (ကျပ်ထောင်ပေါင်း)

(၁) ငွေပမာဏ ........................ ၃၀၂,၉၀၂ (ANNEXURE I)

(၂) စက်ပစ္စည်းကိရိယာများ တန်ဘိုးပမာဏ .......... ၁၀,၈၄၈ {ANNEXURE II}

(၃) အဆောက်အဦးများ/ မြေ ..........

အဆောက်အဦး ၂,၀၁၂,၀၀၀

မြေ ၁,၀၀၀,၀၀၀

(၄) ပရိဘောဂနှင့် လုပ်ငန်းသုံးပစ္စည်းများ တန်ဘိုးပမာဏ

(၅) ကုန်ကြမ်းပစ္စည်းတန်ဘိုးပမာဏ ............. ၁၉,၉၅၀ {ANNEXURE II}

---------

စုစုပေါင်း ၃,၀၄၆,၇၀၀

(ခ) နိုင်ငံခြားမှ တင်သွင်းရန်လိုအပ်သည့် *

| | ကျပ်(ထောင်ပေါင်း) | အမေရိကန်ဒေါ်လာ(ထောင်ပေါင်း) |
|---|---|---|
| (၁) စက်ပစ္စည်းများ၊ စက်ကိရိယာများ စသည့်ပစ္စည်းတို့၏တန်ဘိုးပမာဏ | ၁၀,၈၄၈ | ၁,၈၀၈ |
| (၂) ကုန်ကြမ်းပစ္စည်းများနှင့် အခြား အလားတူပစ္စည်းများ၏တန်ဘိုး | ၁၉,၉၅၀ | ၃,၃၂၅ |
| (၃) ကျွမ်းကျင်မှုနည်းပညာရပ်များ၏ တန်ဘိုးပမာဏ | ------ | ---- |
| စုစုပေါင်း | ၃၀,၇၉၈ | ၅,၁၃၃ |

* **စက်ပစ္စည်းကရိယာနှင့်ကုန်ကြမ်းပစ္စည်းများကို စင်္ကာပူနိုင်ငံ SWI INVESTMENT PTE LTD မှ Supplier Credit ဖြင့်ဝယ်ယူမည်ဖြစ်ပါသည်**

(ဂ) တည်ဆောက်မှုကာလ — ၄ နှစ်

(ဃ) ပဏာမစူးစမ်းလေ့လာမှုပြုလုပ်မည့်ကာလ — ၃ လ

(င) တည်ဆောက်မှုစတင်မည့်အချိန် — မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ခွင့်ပြုမိန့် ရရှိပြီးနောက် ၃ လအတွင်း

၉။ ဆောင်ရွက်မည့် စီးပွါးရေးလုပ်ငန်းနှင့်သက်ဆိုင်သော အချက်အလက်များ –

(က) လုပ်ငန်းအမျိုးအစား (ကုန်ထုတ်လုပ်မှု/ ဝန်ဆောင်မှု စသည်ဖြင့်ဖော်ပြရန်) — နိုင်ငံတကာအဆင့်မီဂေါက်ကွင်း၊ရေကူးကန်၊ တင်းနစ်ကွင်း၊ အဆင့်မြင့်လုံးချင်းအိမ် ၁၀၀လုံး

(ခ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်ဒေသများ — မင်္ဂလာဒုံမြို့နယ်၊ အမှတ်(၃)လမ်းမကြီး၏အရှေ့ဘက်၊ မြေတိုင်းရပ်ကွက်အမှတ်-၅၃၄(ဘီ) ရှိ မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနပိုင်မြေ ၂၈၆ ဧက

(ဂ) ဆောင်ရွက်ပုံနည်းစနစ် — မြေယာဖွံ့ဖြိုးတိုးတက်မှု နှင့် ဂေါက်ကွင်းလုပ်ငန်း

(ဃ) နှစ်စဉ်စက်သုံးဆီလိုအပ်ချက်

| | အမျိုးအစား | အရေအတွက် |
|---|---|---|
| ၁။ | ဒီဇယ်ဆီ | ၂၀၄၀၀ ဂါလံ |
| ၂။ | ................. | .................... |
| ၃။ | ................. | .................... |

(င) နှစ်စဉ်လျှပ်စစ်ဓါတ်အားလိုအပ်ချက်

| | အားအသုံးပြုမှု | မြင်းကောင်ရေ |
|---|---|---|
| ၁။ | လျှပ်စစ်ဓါတ်အား | ၆၀၀၀၀ KWatt |
| ၂။ | ဓါတ်ဆီ/ ဒီဇယ်အင်ဂျင်စက်အင်အား | ဒီဇယ်အင်ဂျင်စက် ၃ လုံး |
| ၃။ | ဘွိုင်လာ အသုံးပြုအင်ဂျင်စက်အား | ................ |

၂၆။ ဖက်စပ်ကုမ္ပဏီ၏ သတ်မှတ်ထားသော မတည်ငွေရင်းမှာ ကျပ်သန်းတစ်ရာဖြစ်ပြီး ကျပ် ၁၀,၀၀၀ တန်ရှယ်ယာပေါင်း တစ်သောင်းဖြင့် အောက်ပါအတိုင်း ခွဲခြားထားရမည်။

| | | | ရှယ်ယာတန်ဖိုး | ကျပ် | |
|---|---|---|---|---|---|
| က-အစုရှယ်ယာ | ၃,၀၀၀ | x | ကျပ် ၁၀,၀၀၀ တန် = | ၃၀,၀၀၀,၀၀၀ | ၃၀% |
| ခ-အစုရှယ်ယာ | ၇,၀၀၀ | x | ကျပ် ၁၀,၀၀၀ တန် = | ၇၀,၀၀၀,၀၀၀ | ၇၀% |
| စုစုပေါင်း | ၁၀,၀၀၀ | | | ၁၀၀,၀၀၀,၀၀၀ | ၁၀၀% |

၂၇။ လုပ်ငန်းစတင်ဆောင်ရွက်ပြီး (၁၀)နှစ်အတွင်း "DHSHD" မှနောက်ထပ်အစုရှယ်ယာ ၁၀% ကိုမူရင်းတန်ဖိုး (par value)ဖြင့် ဝယ်ယူခွင့်ပြုရန် နှစ်ဖက်သဘောတူကြပါသည်။

၂၈။ မတည်ငွေရင်းကို စာချုပ်ဝင်များအတွင်း ညှိနှိုင်းသဘောတူညီချက်ဖြင့်၊ ကော်မရှင်၏ သဘောတူညီချက်အရ မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေနှင့်အညီ ပြောင်းလဲနိုင်သည်။

၂၉။ (က) အောက်ဖော်ပြပါနည်းလမ်းအတိုင်း၊ ဖက်စပ်ကုမ္ပဏီက အစုရှယ်ယာများကို ထုတ်ပေးပြီး၊ စာချုပ်ဝင်များက ကနဦးမတည်ငွေ (Initial paid up capital) ထည့်ဝင်ကြရမည်။

| | | ရှယ်ယာတန်ဖိုး | ကျပ် | |
|---|---|---|---|---|
| က-အစုရှယ်ယာ | ၃၀၀x | ကျပ် ၁၀၀၀၀ တန် = | ၃,၀၀၀,၀၀၀ | ၃၀% |
| ခ-အစုရှယ်ယာ | ၇၀၀x | ကျပ် ၁၀၀၀၀ တန် = | ၇,၀၀၀,၀၀၀ | ၇၀% |
| စုစုပေါင်း | ၁၀၀၀ | | ၁၀,၀၀၀,၀၀၀ | ၁၀၀% |

(ခ) အပိုဒ်(၂၆)တွင်ဖော်ပြထားသော က-ရှယ်ယာများကိုခွဲဝေချထားခြင်း (allotment)နှင့် ထုတ်ပေးခြင်း(issue) တို့နှင့်စပ်လျဉ်း၍ ရှယ်ယာများကို စာပိုဒ် ၂၈(က)ပါအတိုင်း ခွဲဝေချထားပေးရန်နှင့် ထုတ်ပေးရန် DHSHD ကလျှောက်ထားသည့်အခါ၊ DHSHD အတွက်(က)အစုရှယ်ယာ၃၀၀၏ တန်ဖိုးဖြစ်သောကျပ်သိန်း၃၀ကို ZKB ကစိုက်ထုတ်၍ဖက်စပ်ကုမ္ပဏီသို့ ပေးသွင်းရမည်။
ထိုအချက်ကို သံသယမရှိစေရန်အလို့ငှာ၊ DHSHD သည်အဆိုပါရှယ်ယာများကို အထက်အပိုဒ် ၂၇(က) အရလျှောက်ထားသောအခါ ငွေထည့်ရန်မလိုအပ်ကြောင်း နှစ်ဖက်သဘောတူကြပါသည်။

(ဂ) "DHSHD" အနေဖြင့် စီမံကိန်းလုပ်ငန်းတန်ဖိုး၏ ၃၀% အဖြစ်ထည့်ဝင်မည့် မြေငှားရမ်းခ ကျပ်သိန်း ၁၀၀၁၀ အား ဤမြေငှားစာချုပ်လက်မှတ်ရေးထိုးသည့်နေ့မှစ၍ "DHSHD"၏ Interest Free Share Holder's Loan အဖြစ်သတ်မှတ်ပြီး၊ "ZKB" အနေဖြင့်မူ စီမံကိန်းအကောင်အထည်ဖော်မှုအစီအစဉ်အရ ပြီးစီးသွားသော လုပ်ငန်းတန်ဖိုးများကို လစဉ်ကျင်းပသော ဒါရိုက်တာများအစည်းအဝေးတွင် ဆုံးဖြတ်အတည်ပြု၍ ZKB၏ Interest Free Share Holder's Loan အဖြစ်သတ်မှတ်သွားရန် နှစ်ဖက်သဘောတူကြပါသည်။

၃၀။ ဖက်စပ်ကုမ္ပဏီ၏အမြတ်ငွေကို အစုရှယ်ယာများကိုင်ဆောင်မှု အချိုးအလိုက်၊ ထုတ်ပေးရန်နှစ်ဖက်သဘောတူကြပါသည်။

၃၁။ ဖက်စပ်စာချုပ်သက်တမ်းသည် အခြားလုပ်ဆောင်မည့်ကာလ သို့မဟုတ် သတ်မှတ်ချက်မရှိလျှင် "ဖက်စပ်ကုမ္ပဏီ" ကိုဖျက်သိမ်းခြင်းမပြုမချင်း သို့မဟုတ် "ရှယ်ယာရှင်များ" သည် ဖက်စပ်ကုမ္ပဏီ၏ရှယ်ယာများကို ဆက်လက်ကိုင်ဆောင်ထားသမျှကာလပတ်လုံး သို့မဟုတ် ဤစာချုပ်တွင်ပြဋ္ဌာန်းထားသည့်အတိုင်း ဖက်စပ်ကုမ္ပဏီရပ်ဆိုင်းခြင်း မပြုသေးသည့်အချိန်အထိဖြစ်သည်။

**အစုရှယ်ယာလွှဲပြောင်းခြင်း**

၃၂။ စာချုပ်ဝင်တို့သည် အခြားစာချုပ်ဝင်၏ စာဖြင့်ကြိုတင်သဘောတူညီမှုမရှိပါက မိမိ၏အစုရှယ်ယာများကို အခြားသူများအား လွှဲပြောင်းပေးခြင်းမပြုရ။

၃၃။ သက်ဆိုင်ရာအစုရှယ်ယာများကိုလွှဲပြောင်းခြင်းနှင့်ပတ်သက်၍ အောက်တွင်ဖော်ပြပါရှိသည့်အတိုင်း ကန့်သတ်ချက်များပြုလုပ်ထားသည်။

(က) ဤဖက်စပ်လုပ်ငန်းသဘောတူစာချုပ်သက်တမ်း (၅)နှစ်ပြည့်ပြီးနောက်ပိုင်းမှအစပြု၍ ဒါရိုက်တာများ၏ဆုံးဖြတ်အတည်ပြုချက်ကိုရယူ၍ မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေပါပြဋ္ဌာန်းချက်များကို မထိခိုက်စေဘဲ အစုရှယ်ယာများကို လွှဲပြောင်းနိုင်သည်။

(ခ) အစုရှယ်ယာများကို လွှဲပြောင်း(ရောင်းချ)လိုပါက ရှေးဦးစွာစာချုပ်ဝင်အချင်းချင်းသာ အသိပေးအကြောင်းကြားပြီး လက်ခံ(ဝယ်ယူ)လိုသောစာချုပ်ရှင်နှင့် ရှယ်ယာ၏တန်ဘိုးကို ညှိနှိုင်း၍သဘောတူညီမှုရယူရမည်။

(ဂ) ရှယ်ယာတန်ဘိုးကို ညှိနှိုင်း၍သဘောတူညီမှုမရရှိခြင်း၊ သဘောတူညီမှုရရှိပြီး ရက်ပေါင်း(၃၀)အတွင်း လက်ခံ(ဝယ်ယူ)မှုမရှိခြင်း စသည့်အကြောင်းအရာများပေါ်ပေါက်လာမှသာ ဒါရိုက်တာအဖွဲ့က သဘောတူလက်ခံနိုင်သည့်အခြားတစ်ဦးတစ်ယောက်သို့ တူညီသောတန်ဘိုး(သို့မဟုတ်)ပို၍မြင့်သောတန်ဘိုးဖြင့်လွှဲပြောင်း(ရောင်းချ)နိုင်သည်။

**ချေးငွေရယူခြင်း**

၃၄။ "ZKB" အနေဖြင့်ဖက်စပ်ကုမ္ပဏီသို့ ထည့်ဝင်ရမည့်စီမံကိန်းလုပ်ငန်းတန်ဘိုးငွေပမာဏ၏ ၇၀%နှင့်ညီမျှသော ငွေပမာဏ ပြည့်မီစွာထည့်ဝင်နိုင်ရန်အတွက် ချေးငွေအဖြစ်ရယူပါက ယင်းချေးငွေနှင့်အတိုးများကို ပေးဆပ်ရန်မှာ "ZKB"၏တာဝန်သာဖြစ်ပြီး ဖက်စပ်ကုမ္ပဏီနှင့်ပတ်သက်မှုမရှိစေရ၊ ထိုသို့ "ZKB" မှငွေချေးယူနိုင်ရန်အတွက် "ZKB"၏အစုရှယ်ယာများကို အပေါင်ထားခြင်းအား "DHSHD"မှကန့်ကွက်ရန်မရှိ၊ သဘောတူခွင့်ပြုရန် နှစ်ဖက်သဘောတူကြပါသည်။

**ဖက်စပ်ကုမ္ပဏီကိုစီမံခန့်ခွဲခြင်း**

၃၅။ ဤဖက်စပ်ကုမ္ပဏီကို "DHSHD"ဖက်မှ ဒါရိုက်တာ (၃)ဦးနှင့် "ZKB"ဖက်မှ ဒါရိုက်တာ (၄)ဦးပါဝင်သောဒါရိုက်တာအဖွဲ့က အလုံးစုံလုပ်ငန်းစီမံခန့်ခွဲမှု၊ လုပ်ငန်းကိုအောင်မြင်စွာ အကောင်အထည်ဖော်နိုင်မှု၊ စီမံကိန်းလုပ်ငန်းတိုးတက်ဖြစ်ပေါ်မှုတို့အတွက် တာဝန်ခံပြီး၊ လုပ်ငန်းနည်းစနစ်၊ ဘဏ္ဍာငွေထိန်းသိမ်းမှုစနစ်၊ စီမံခန့်ခွဲမှုစနစ်နှင့် ဤစာချုပ်ပါ ဘောင်အတွင်း၊ လုပ်ငန်းနှင့်ဆက်နွယ်သော လုပ်ဆောင်မှုများအတွက် တာဝန်ခံရမည်။

၃၆။ ပထမဘဏ္ဍာရေးနှစ်တွင် ဒါရိုက်တာအဖွဲ့အစည်းအဝေးများ၌ ဥက္ကဋ္ဌအဖြစ် "DHSHD"ဖက်မှဒါရိုက်တာအဖွဲ့ဝင်က ဆောင်ရွက်ပြီး နောက်ပိုင်းနှစ်များ၌ "DHSHD"နှင့်"ZKB"တို့တစ်ဖက်စီ၏ ဒါရိုက်တာအဖွဲ့ဝင်တစ်ဦးက တစ်နှစ်စီခြားလျက် ဥက္ကဋ္ဌအဖြစ်တာဝန်ယူရမည်။ ဒါရိုက်တာအဖွဲ့၏ဆုံးဖြတ်ချက်များကို အစည်းအဝေးတက်ရောက်သူများထဲမှ အနည်းဆုံး စာချုပ်ဝင်တစ်ဖက်လျှင် နှစ်ဦးစီပါဝင်သော အနည်းဆုံးဒါရိုက်တာအဖွဲ့ဝင် ၅ဦးကပြုလုပ်ရမည်။ မဲအရေအတွက်ချင်းတူညီနေပါက ဥက္ကဋ္ဌသည် ဒုတိယသို့မဟုတ် အဆုံးအဖြတ်မဲပေးခွင့်မရှိစေရ။ အုပ်ချုပ်မှုဒါရိုက်တာ၏ တာဝန်များကို "ZKB"ဖက်မှ ဒါရိုက်တာတစ်ဦးက ဆောင်ရွက်ရမည်။

၃၇။ အစည်းအဝေးအထမြောက်စေရန်အတွက် ကိုယ်တိုင်ဖြစ်စေ၊ တရားဝင်စာဖြင့်လွှဲအပ်ခြင်းခံရသည့်ကိုယ်စားလှယ်က ဖြစ်စေ၊ "ZKB"ဖက်မှ အနည်းဆုံး(၃)ဦးနှင့် "DHSHD"ဖက်မှအနည်းဆုံး(၂)ဦးပါဝင်ပြီး၊ အနည်းဆုံး (၅)ဦးတက်ရောက် ရမည်။

၃၈။ ဒါရိုက်တာအဖွဲ့အစည်းအဝေးများကို လုပ်ငန်းများ အလျှင်အမြန်ပြီးမြောက်စေရန် တစ်လတွင်အနည်းဆုံးတစ်ကြိမ်ပြုလုပ် ရမည်။

**ဒါရိုက်တာအဖွဲ့၏လုပ်ပိုင်ခွင့်များ**

၃၉။ ဒါရိုက်တာအဖွဲ့သည် စီမံကိန်းလုပ်ငန်းနှင့်စပ်လျဥ်း၍ အောက်ဖော်ပြပါကိစ္စရပ်များတွင် မူဝါဒဆိုင်ရာကိစ္စရပ်များကို ချမှတ်ပိုင်ခွင့်ရှိရမည်။

(က) ဖက်စပ်လုပ်ငန်း၏ စီမံခန့်ခွဲရေးဆိုင်ရာလုပ်ငန်း အစီအစဉ်ထိန်းကွပ်ရန်၊

(ခ) စီမံကိန်းလုပ်ငန်း၏အကောင်အထည်ဖော်မှုဆိုင်ရာမူဝါဒများ ချမှတ်ပေးရန်၊

(ဂ) စီမံကိန်းလုပ်ငန်း၏ ရောင်းချရေးမူဝါဒ၊ ဖယားရေးဆွဲရေးနှင့် စည်းကမ်းသတ်မှတ်ရေးကိစ္စများအပါအဝင် စီးပွားရေးဆိုင်ရာ စီမံချက်များနှင့်မူဝါဒများရေးဆွဲရန်၊

(ဃ) စီမံကိန်းလုပ်ငန်းတွင် အသုံးပြုမည့်ပစ္စည်းများ၏ အရည်အသွေးနှင့်ပုံစံများကို စစ်ဆေးရန်နှင့်အတည်ပြုပေးရန်၊

(င) လိုအပ်သောခွင့်ပြုချက်များ၊ အတည်ပြုပေးခြင်းများ၊ သတင်းထုတ်ပြန်ခြင်းများ၊ လိုင်စင်ထုတ်ပေးခြင်းများ၊ ငြင်းပယ်ခံရသောအမှုကိစ္စရပ်များအတွက် အသနားခံမှုများပြုလုပ်ရန်၊

(စ) အမိကကန်ထရိုက်တာ သို့မဟုတ် ကန်ထရိုက်တာများနှင့် စာချုပ်ချုပ်ဆိုရန်နှင့် အလုပ်အပ်နှံရန်၊

(ဆ) အတိုင်ပင်ခံများ၊ ပုံစံထုတ်သူများ၊ အင်ဂျင်နီယာများနှင့် အတိုင်းအတာကျွမ်းကျင်သူများရွေးချယ်ရန်၊

(ဇ) အသုံးစရိတ်အလိုက် ငွေခွဲဝေသုံးစွဲမှုနှင့် စီးပွားရေး၊ ဘဏ္ဍာရေးဆိုင်ရာ ကိစ္စရပ်များသုံးသပ်ရန်၊

(ဈ) လုပ်ငန်းလည်ပတ်ရန်အတွက် လိုအပ်သောဘဏ္ဍာငွေများ၊ ဘဏ်များမှချေးယူခြင်းများ၊ အစုရှယ်ယာရှင်များထံမှ ယာယီစိုက်ငွေများနှင့် အာမခံချက်များ၊ ရံပုံငွေသို့ထည့်ဝင်ငွေများ၊ အစုပေါ်အမြတ်ကို အထွေထွေသင်းလုံးကျွတ် အစည်းအဝေးတွင် ကြေငြာ၍ထုတ်ပေးမှုများ ပြုလုပ်ရန်၊

(ည) ဖက်စပ်ကုမ္ပဏီ၏လုပ်ငန်းများအတွက် အရည်အချင်းပြည့်ဝသူများနှင့် ကျွမ်းကျင်သူဝန်ထမ်းများခန့်ထားရန်၊

(ဋ) အလှူဒါနပြုရေး၊ ကြော်ငြာရေးစသော အခြားထူးခြားသည့်ကိစ္စရပ်များ ဆောင်ရွက်ရန်၊ အပ်နှင်းရန်၊

(ဌ) အစုရှယ်ယာများကို ပြောင်းလဲခြင်း၊ လျှော့ချခြင်း၊ တိုးမြှင့်ခြင်း၊ လွှဲပြောင်းခြင်း၊ သိမ်းယူခြင်း၊ ပေါင်းစပ်ခြင်း၊ ထပ်ဆင့်ပေါင်းစပ်ခြင်းနှင့် အခြားသတ်မှတ်ချက်၊ စည်းကမ်းချက်များကို ပြုလုပ်ရန်၊

(ဍ) ဖက်စပ်ကုမ္ပဏီ၏စီမံခန့်ခွဲရေးလုပ်ငန်းများကို ကုမ္ပဏီ၏ အုပ်ချုပ်မှုဒါရိုက်တာသို့ လုပ်ပိုင်ခွင့်များအပ်နှင်းရန်၊

**တညီတညွတ်တည်းဆုံးဖြတ်ရန်အချက်များ**

၄၀။ အောက်ပါကိစ္စရပ်များတွင် ဒါရိုက်တာအဖွဲ့ဝင်အားလုံး၏ ကန့်ကွက်သူမရှိ တညီတညွတ်တည်း အတည်ပြုချက်ဖြင့် ဆုံးဖြတ်ရမည်။

(က) ဒါရိုက်တာအဖွဲ့၏အခွင့်အာဏာများ သတ်မှတ်မှုများကို ပြောင်းလဲခြင်း၊

(ခ) သင်းဖွဲ့စည်းမျဉ်းနှင့်အညီ အလှည့်ကျ ဒါရိုက်တာများ ခန့်အပ်ခြင်းမှအပ အခြားဒါရိုက်တာများကိုခန့်ထားခြင်း၊

(ဂ) စီမံကိန်းလုပ်ငန်းစရိတ်ကို အပြီးသတ်တွင် အတည်ပြုခြင်းနှင့် စာချုပ်ဝင်များ၏ရှယ်ယာများလျှော့ခြင်းနှင့် တိုးခြင်းကိုအတည်ပြုခြင်း၊

(ဃ) ဤဖက်စပ်ကုမ္ပဏီကို အခြားအဖွဲ့နှင့် ပေါင်းစပ်ခြင်း၊ ပေါင်းစည်းခြင်း၊ အခြားကုမ္ပဏီတစ်ခု သို့မဟုတ် အစု စပ်လုပ်ငန်း၊ သို့မဟုတ် တစ်ဦးချင်းလုပ်ငန်းရှင်ကို သိမ်းယူခြင်း၊ လွှဲယူခြင်း၊

(င) ဤဖက်စပ်ကုမ္ပဏီကို ဖျက်သိမ်းခြင်း၊ စာရင်းရှင်းလင်းရေး အရာရှိခန့်ထားခြင်း၊
(စ) မတည် သို့မဟုတ် ထုတ်ပေးပြီး သို့မဟုတ် ပေးသွင်းပြီး အစုရှယ်ယာတိုးခြင်း၊ လျှော့ချခြင်း၊ ထပ်မံချမှတ် ပေးခြင်းနှင့် ဒီဘင်ချာများထုတ်ပေးခြင်း၊
(ဆ) အရှုံးအမြတ်စာရင်းနှင့် လက်ကျန်ရှင်းတမ်းများအပေါ်တွင် အတည်ပြုလက်မှတ်ရေးထိုးခြင်း၊
(ဇ) အစုပေါ်အမြတ်ကြေငြာခြင်း၊
(ဈ) ဖက်စပ်ကုမ္ပဏီအတွက်ငွေချေးယူခြင်း၊
(ည) ကုမ္ပဏီကပိုင်ဆိုင်သောပစ္စည်းများအား အပေါင်ပစ္စည်းပြုလုပ်ခြင်း၊ ငှါးရမ်းခြင်း၊ လွှဲပြောင်းပေးခြင်း၊
(ဋ) အသုံးစရိတ်တစ်ခုသည် သို့မဟုတ်တင်ဒါတစ်ခုသည် ကျပ်၅၀သိန်း သို့မဟုတ် အမေရိကန်ဒေါ်လာ ၅သောင်း ကျော်လွန်ပါက အဆုံးအဖြတ်ပေးခြင်း၊

**ကုမ္ပဏီ၏လုပ်ငန်းဆောင်ရွက်မှုနှင့် စီမံကိန်းလုပ်ငန်းများ**

၄၁။ ဖက်စပ်ကုမ္ပဏီလုပ်ငန်းများလုပ်ဆောင်ရန် အရာရှိများအားလုံး၊ ကျွမ်းကျင်သူများ၊ အတိုင်ပင်ခံများနှင့် အခြားဝန်ထမ်းများခန့်ထားခြင်း၊ (ယာယီနေ့စားများ၊ ပုတ်ပြတ်များမပါ) သင့်လျော်သော လျော်ကြေးပေးရန်ကိစ္စများ၊ ဆုကြေးပေးခြင်းများကို ဒါရိုက်တာအဖွဲ့၏ ကြီးကြပ်လမ်းညွှန်မှုဖြင့် ဆောင်ရွက်ရမည်။

၄၂။ အလုပ်ခန့်ထားရာတွင် မြန်မာနိုင်ငံသားများကို ဦးစားပေးရမည်။

၄၃။ နိုင်ငံခြားသားများအား ကျွမ်းကျင်သူနှင့်ပါရဂူ သို့မဟုတ် အထူးပြုတတ်ကျွမ်းသူများကို ခန့်ထားရာ၌ ဒါရိုက်တာအဖွဲ့နှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်တို့၏ ကြိုတင်အတည်ပြုချက်ရရှိပြီးမှ ခန့်ထားရမည်။

၄၄။ နိုင်ငံခြားသားများကို ခန့်ထားရာ၌ယင်းနိုင်ငံခြားသားများနှင့် ယင်းတို့၏မိသားစုများသည် ပြည်ထောင်စုမြန်မာနိုင်ငံတော်၏ ပြည်တွင်းရေးရာကိစ္စရပ်များတွင် စွက်ဖက်မှုမပြုလုပ်စေရန် ဖက်စပ်ကုမ္ပဏီက တာဝန်ခံရမည်။

၄၅။ ဖက်စပ်ကုမ္ပဏီဖွဲ့စည်းပြီးနောက် ဖက်စပ်ကုမ္ပဏီက "ZKB"အား စီမံကိန်းလုပ်ငန်းများ တာဝန်ယူလုပ်ဆောင်အကောင်အထည်ဖော်နိုင်ရန်၊ စည်းကမ်းသတ်မှတ်ချက်များချမှတ်၍ စီမံကိန်းမန်နေဂျာတစ်ဦးကို ခန့်ထားရမည်။ စီမံကိန်းမန်နေဂျာသည် စီမံကိန်းလုပ်ငန်း၏ နေ့စဉ်စီမံခန့်ခွဲမှုများ၊ ထိန်းချုပ်မှုများစသော လုပ်ငန်းအဝဝကို ဆောင်ရွက်ရမည်။

၄၆။ ဤစာချုပ်သည် "DHSHD"က စီမံကိန်းလုပ်ငန်းတွင်ထည့်ဝင်သည့် ရန်ကုန်မြို့၊ မင်္ဂလာဒုံမြို့နယ်တွင် တည်ရှိသည့် နောက်ဆက်တွဲ(ခ)ပါအတိုင်း မြေဧက ၂၈၆ဧကတွင် တည်ဆောက်မည့်အောက်ပါ လုပ်ငန်းအားလုံးပါဝင်သည်-
(က) ၁၈ ကျင်းပါ နိုင်ငံတကာအဆင့်မီ ဂေါက်ကွင်းတစ်ခု၊
(ခ) ရေကူးကန်တစ်ကန်၊
(ဂ) တင်းနစ်ကွင်း(၄)ကွင်း၊
(ဃ) အဆင့်မြင့်လုံးချင်းအိမ်ရာ (၁၀၀)လုံး၊
(ဃ) အခြားအထောက်အကူပြုလမ်းများ၊ တယ်လီဖုန်းလိုင်းများ၊ လျှပ်စစ်၊ ဆက်သွယ်ရေးလုပ်ငန်းများ၊ ရေစီးမြောင်းများ၊ ရေသွယ်ရေးလုပ်ငန်းများ၊ မြေအလုဆင်ခြင်းနှင့် အခြားလိုအပ်ချက်များ၊

၄၇။ ဆောက်လုပ်ရေးဆိုင်ရာခွင့်ပြုချက်များ၊ အစားအသောက်နှင့် ဖျော်ဖြေမှုလုပ်ငန်းလိုင်စင်များနှင့် အခြားအထောက်အကူပြုလုပ်ငန်းများအတွက် ပြင်ဆင်မှုများကို သက်ဆိုင်ရာမှခွင့်ပြုချက်ရယူပြီး တည်ဆောက်သွားရမည်။

၄၈။ လုပ်ဆောင်ရမည့်လုပ်ငန်းများကို သတ်မှတ်ကာလအတွင်းပြီးစီးရန် ကြီးကြပ်ဆောင်ရွက်ရမည်။

၄၉။ စီမံကိန်းလုပ်ငန်းပြီးစီးသောအခါတွင် ဒါရိုက်တာအဖွဲ့က လုံးချင်းအိမ်ရာများကိုရောင်းချရန်အတွက် စီမံကိန်းမန်နေဂျာ၏ကြီးကြပ်မှုဖြင့် အရောင်းကိုယ်စားလှယ်များခန့်အပ်ပြီး ကော်မရှင်နှုန်းထားသတ်မှတ်၍ စည်းကမ်းချက်များနှင့်အညီ ဆောင်ရွက်ရန် တာဝန်လွှဲအပ်နိုင်သည်။

၅၀။ ဖက်စပ်ကုမ္ပဏီအနေဖြင့် လုံးချင်းအိမ်ရာများကို မြန်မာနိုင်ငံသားများသို့ ရောင်းချခြင်း၊ သို့မဟုတ် နှစ်ရှည်ငှါးရမ်းခြင်းကို ပြုလုပ်ခွင့်ရှိသည်။ သို့ရာတွင် ၁၉၈၇ခုနှစ်၊ မရွှေ့မပြောင်းနိုင်သောပစ္စည်းလွှဲပြောင်းခြင်းကို ကန့်သတ်သည့်ဥပဒေပုဒ်မ ၃ အရ၊ လုံးချင်းအိမ်ရာများကို နိုင်ငံခြားသားသို့မဟုတ် နိုင်ငံခြားကုမ္ပဏီများသို့ရောင်းချခွင့်မရှိသဖြင့် ဖက်စပ်ကုမ္ပဏီနှင့်သက်ဆိုင်ရာ နိုင်ငံခြားသားသို့မဟုတ် နိုင်ငံခြားကုမ္ပဏီ တို့စာချုပ်ချုပ်ဆို၍ (၁)နှစ်ထက်မပိုသောသက်တမ်းကာလအတွက် ငှားရမ်းအသုံးပြုခွင့်ကိုသာ ခွင့်ပြုသည်။

၅၁။ ဖက်စပ်ကုမ္ပဏီသည် ကုမ္ပဏီ၏အသုံးစရိတ်နှင့် ရငွေခန့်မှန်းခြေများပြုလုပ်၍ အမှန်ရရှိသောဝင်ငွေများနှင့် အသုံးစရိတ်များကို နှိုင်းချိန်ရမည်။ စီမံကိန်းကုန်ကျစရိတ်ကို သီးခြားဖေါ်ပြလျက် စီမံကိန်းလုပ်ငန်းတိုးတက်မှုနှင့် ကုန်ကျစရိတ်များကို အချိန်မီရေးဆွဲထားရမည်။

**အမြတ်အပေါ်ခွဲဝေယူခွင့်**

၅၂။ (က) စီမံကိန်းလုပ်ငန်းလုပ်ဆောင်မှုအရ ဝင်ငွေနှင့်အသုံးစရိတ်များကို စနစ်တကျရေးဆွဲပြီးနောက် စာရင်းစစ်အတည်ပြုပြီးသောနှစ်ချုပ်ငွေစာရင်းမှ အခွန်ဆောင်ပြီးအမြတ်ငွေကို စာချုပ်ဝင်နှစ်ဦးနှစ်ဖက်တို့သည် ရရှိထားသော မြန်မာကျပ်ငွေနှင့် နိုင်ငံခြားငွေအသီးသီးတို့အပေါ်တွင် ဒါရိုက်တာအဖွဲ့၏ အစည်းအဝေးဆုံးဖြတ်ချက်ဖြင့် အစုရှယ်ယာအချိုးအစားအတိုင်း "DHSHD"မှ ၃၀% နှင့် "ZKB" မှ ၇၀% အချိုးကျထုတ်ယူနိုင်ခွင့်ရှိသည်။

(ခ) ဒါရိုက်တာများအစည်းအဝေးဆုံးဖြတ်ချက်အရ အမြတ်ငွေများအပေါ် Interim Dividend ခွဲဝေယူခွင့်ရှိကြောင်း နှစ်ဖက်သဘောတူကြပါသည်။

**ဂရံထုတ်ပေးခြင်း**

၅၃။ ဖက်စပ်ကုမ္ပဏီအနေဖြင့် လုံးချင်းအိမ်ရာများဆောက်လုပ်ပြီးစီး၍ ရောင်းချသည့်အခါ ဝယ်ယူသူများအမည်ဖြင့် နှစ်(၆၀)ဂရံထုတ်ပေးရန်အတွက် "DHSHD"နှင့်ညှိနှိုင်းဆောင်ရွက်ရန်ဖြစ်သည်။

၅၄။ စီမံကိန်းအရ၊ ဂေါက်ကွင်း၊ ရေကူးကန်၊ တင်းနစ်ကွင်းနှင့် ၎င်းတို့နှင့်ဆက်စပ်လျှက်ရှိသည့် အဆောက်အအုံစသည်များကို တည်ဆောက်ပြီးစီးသောအခါ ကုမ္ပဏီအမည်ဖြင့် နှစ်(၃၀)ဂရံရရှိရေးကိုလည်းကောင်း၊ ယင်းနှစ်(၃၀)ပြည့်မြောက်ပြီးနောက်၊ ထပ်မံ၍ (၅)နှစ်စီဂရံသက်တမ်း (၄)ကြိမ်တိုးမြှင့်ခွင့်ရရှိရေးကိုလည်းကောင်း၊ "DHSHD"နှင့်ညှိနှိုင်းဆောင်ရွက်ရမည်။

**စာရင်းထိန်းသိမ်းထားရှိခြင်းနှင့် စာရင်းစစ်ခြင်း**

၅၅။ ဖက်စပ်ကုမ္ပဏီသည် အမေရိကန်ဒေါ်လာနှင့် ကျပ်ငွေဘဏ်စာရင်းများကို ဒါရိုက်တာအဖွဲ့၏ ဆုံးဖြတ်ချက်အရသင့်လျော်သောဘဏ်တွင် ဖွင့်လှစ်ရန်နှစ်ဖက် သဘောတူကြပါသည်။

၅၆။ ဖက်စပ်ကုမ္ပဏီသည် စံချိန်မီလက်ခံကျင့်သုံးလျက်ရှိသော ပစ္စည်းစာရင်း၊ ငွေစာရင်းများကို အတိအကျထားရှိစေပြီး၊ မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေ ပုဒ်မ ၁၃၀ပါပြဋ္ဌာန်းချက်များနှင့်အညီ ထိန်းသိမ်းထားရှိရမည်။

၅၇။ မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေပုဒ်မ ၁၄၅-က ပါပြဌာန်းချက်များနှင့်အညီ ကုမ္ပဏီ၏စာရင်းများကို လက်မှတ်ရ ပြည်သူ့စာရင်းစစ်ဖြင့် အစိုးရကသတ်မှတ်ပေးသည့်အတိုင်း စစ်ဆေးခံစေရမည်။

၅၈။ အရည်အချင်းပြည့်ဝသော စာရင်းကိုင်အရာရှိသည် ကုမ္ပဏီ၏ရသုံးစာရင်းနှင့် အကျိုးအမြတ်အခြေအနေများကို စနစ်တကျအသင့်ရှိစေပြီး အုပ်ချုပ်မှုဒါရိုက်တာသို့ ပုံမှန်တင်ပြရမည်။

**အာမခံထားရှိခြင်း**

၅၉။ ဖက်စပ်ကုမ္ပဏီသည် မြန်မာ့အာမခံဥပဒေနှင့် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဆိုင်ရာဥပဒေပုဒ်မ၁၁(ခ)အရ၊ မြန်မာ့အာမခံလုပ်ငန်းတွင် အာမခံထားရှိရမည်။

**ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များ**

၆၀။ ဖက်စပ်ကုမ္ပဏီသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပါ ပြဋ္ဌာန်းထားသော ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားရမည်။

**လုပ်ငန်းဆောင်ရွက်မှုအတွက် ဘဏ်အာမခံထားရှိခြင်း**

၆၁။ "ZKB" သည် ဖက်စပ်ကုမ္ပဏီစီမံကိန်းလုပ်ငန်းတန်ဖိုး၏ ၇၀ ရာခိုင်နှုန်းနှင့်ညီမျှသော ငွေပမာဏကျပ် ၂၃၃၅.၇ သန်း ၏ ၂ ရာခိုင်နှုန်းဖြစ်သော ကျပ် ၄၆.၇ သန်း (ကျပ်လေးဆယ့်ခြောက်ဒသမခုနစ်သန်း)ကို စာချုပ်လက်မှတ်ရေးထိုးသည့်နေ့မှ ရက်ပေါင်း(၃၀)အတွင်း ဘဏ်အာမခံ Performance Bank Guarantee ကို ထားရှိပြီး " DHSHD " သို့ ပေးအပ်ရမည်။

**စာချုပ်အကျိုးသက်ရောက်ခြင်း**

၆၂။ ဤစာချုပ်သည် ကော်မရှင်ကခွင့်ပြုမိန့်ထုတ်ပေးပြီးနောက် စာချုပ်ဝင်နှစ်ဦးတို့သည် အသိသက်သေများရှေ့တွင် လက်မှတ်ရေးထိုးသောအချိန်မှစ၍ သက်ဝင်လှုပ်ရှားပြီး အကျိုးစတင်သက်ရောက်မှုရှိရန် နှစ်ဖက်သဘောတူကြပါသည်။

**လွှဲအပ်ခြင်း**

၆၃။ စာချုပ်ဝင်များသည်အခြားစာချုပ်ဝင်၏ ကြိုတင်သဘောတူညီချက် မရှိလျှင်ဖြစ်စေသို့မဟုတ်ကော်မရှင်၏ ကြိုတင်သဘော တူညီချက်မရှိလျှင်ဖြစ်စေ မိမိတို့၏အခွင့်အရေးများ၊ လုပ်ပိုင်ခွင့်များကိုအခြားပုဂ္ဂိုလ် အဖွဲ့အစည်းများအား လွှဲပြောင်းပေးခြင်း မပြုရ။

၆၄။ ဤစာချုပ်သည် စာချုပ်ဝင်များ၏ဆက်ခံသူများ၊ လွှဲပြောင်းခံရသူများအပေါ်တွင်လည်း သက်ရောက်ပြီးအကျိုးကျေးဇူးလည်း ယင်းတို့ခံစားခွင့်ရှိစေရသည်။

**စာချုပ်ကိုပြန်လည်ညှိနှိုင်းခြင်း**

၆၅။ ဤစာချုပ်ကိုစာချုပ်ဝင်များအကြား စာအားဖြင့်အပြန်အလှန် သဘောတူညီမှုမရှိပဲပြင်ဆင်ခြင်း၊ ဖြည့်စွက်ခြင်း၊နှုတ်ပယ် ခြင်းတို့ကိုမပြုလုပ်ရ။ ထိုသို့ပြင်ဆင်ခြင်း၊ ပုံသဏ္ဍာန်ပြောင်းခြင်း၊ ဖြည့်စွက်ခြင်း၊ နှုတ်ပယ်ခြင်းတို့ကို နှစ်ဦးနှစ်ဘက်စာဖြင့် ရေးသားပြီး လက်မှတ်ရေးထိုးမှုများပြု၍ ပြင်ဆင်ပါကအဆိုပါပြင်ဆင်ချက်သည် ဤစာချုပ်၏တစ်စိတ်တစ်ဒေသဖြစ်လာ စေရမည်။ စာချုပ်အပေါ်ပြင်ဆင်ခြင်း၊ ပြောင်းလဲခြင်းတစ်ရပ်ရပ်သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အတည်ပြုချက်ရရှိပြီးမှ သာအတည်ဖြစ်စေရမည်။

**စာချုပ်ရုပ်စဲခြင်း**

၆၆။ ဤစာချုပ်သည် အောက်ဖော်ပြပါအခြေအနေ အဖြစ်အပျက်တစ်ရပ်ရပ်ဖြစ်ပေါ်လာပါက မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ခွင့်ပြုချက်ရရှိသည့်အခါ ကုမ္ပဏီသည်ရုပ်စဲသွားရမည်။

(က) စာချုပ်ဝင်နှစ်ဦးနှစ်ဖက်က စာချုပ်ရုပ်စဲရန် သဘောတူပြီး "ကော်မရှင်"သို့ စာဖြင့်တင်ပြလျက် "ကော်မရှင်" ကလည်းသဘောတူခွင့်ပြုသည့်အခါ၊

(ခ) စာချုပ်ဝင်တစ်ဖက်ဖက်က ဤစာချုပ်ပါဆောင်ရွက်ရန် သို့မဟုတ် လိုက်နာရန်တာဝန်များ ဆောင်ရွက်ရန် ပျက်ကွက်သည့်အခါ၊

(ဂ) လုပ်ငန်းတွင် ကြီးမားစွာဆက်တိုက် အရှုံးပေါ်ပေါက်သည့်အခါ၊

(ဃ) ကြိုတင်မမျှော်မှန်းနိုင်သည့်အပြင် တားဆီးခြင်းမပြုနိုင်သော ဖြစ်ရပ်များသည် ၆-လထက်မနည်း ဖြစ်ပေါ်နေသည့်အခါ၊

(င) လုပ်ငန်း၏ မူလရည်မှန်းချက်များကို အကောင်အထည်ဖော်နိုင်စွမ်း မရှိသည့်အခါ၊

(စ) **"ZKB"** ကုမ္ပဏီဖျက်သိမ်းသည့်အခါ၊

၆၇။ ဤစာချုပ်ရုပ်စဲခြင်းအကျိုးသက်ရောက်သည့်အခါတွင် ကုမ္ပဏီကို မြန်မာနိုင်ငံများအက်ဥပဒေပါပြဋ္ဌာန်းချက်များအတိုင်း ဖျက်သိမ်းရမည်။ ထိုသို့ဖျက်သိမ်းသည့်အခါတွင် **"DHSHD"** ကငှါးရမ်းထားသော မြေနှင်တကွ မရွှေ့ပြောင်းနိုင်သော ပစ္စည်းများကို ပြန်လည်သိမ်းယူပြီး အခြားပစ္စည်းများကိုလည်း အစိုးရမှတ်တမ်းတင်ရာဖြတ်များနှင့် စာရင်းရှင်းလင်းရေးအရာရှိအဖြစ် ဆောင်ရွက်သော စာရင်းစစ်များ၏ တန်ဖိုးဖြတ်ချက်များအရ တန်ဖိုးဖြတ်လျက် ရရန်ပိုင်ခွင့်နှင့် ပေးရန်တာဝန်များကိုလည်း ရှင်းလင်းစေရမည်။

၆၈။ ဤစာချုပ်ကို ရုပ်စဲခြင်းသည် ဤစာချုပ်အရ တာဝန်ရှိသည့်လျှော်ကြေးများ နစ်နာကြေးများ ရရန်ပိုင်ခွင့်များကို မထိခိုက်စေရ။

၆၉။ ဤစာချုပ်မရုပ်စဲမီက ပေါ်ပေါက်ခဲ့သည့် စာချုပ်ဝင်များ၏ တာဝန်နှင့်ရရန်ပိုင်ခွင့်များကို ဤစာချုပ်ရုပ်စဲခြင်း သို့မဟုတ် စာချုပ်သက်တမ်းကုန်ဆုံးခြင်းက ပျက်ပြယ်မှုမရှိစေရ။

**ပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်ခြင်း**

၇၀။ ဖက်စပ်ကုမ္ပဏီသည် စီမံကိန်းလုပ်ငန်းများ၏ ဝန်းကျင်တွင် ရေ၊ လေ၊ မြေညစ်ညမ်းမှု၊ ပျက်ယွင်းမှုများမရှိစေရန် ကြိုတင်ကာကွယ်ခြင်းနှင့် ထိန်းသိမ်းထားရှိခြင်းတို့အတွက် တာဝန်ရှိရမည်။ ထို့အပြင် ပတ်ဝန်းကျင်ချို့ယွင်းမှု မရှိစေပဲ ရေ၊ လေ၊ မြေညစ်ညမ်းမှုများကို ကာကွယ်ရမည်။

၇၁။ ဖက်စပ်ကုမ္ပဏီသည် ပတ်ဝန်းကျင်အကာအကွယ်အဖြစ် ရေဆိုးထုတ်စနစ်နှင့် အခြားနည်းအားဖြင့် ဆောင်ရွက်ခြင်းဖြင့် စီမံကိန်းဒေသ ပတ်ဝန်းကျင်သာယာစိုပြည် နှစ်လိုဖွယ်ဖြစ်နေစေရမည်။

**ဓာတ်သတ္တုအရင်းအမြစ်များ**

၇၂။ ဤစာချုပ်ကာလအတွင်း မမျှော်လင့်ပဲ စီမံကိန်းလုပ်ငန်းတည်နေရာ နယ်မြေအတွင်းမှ ဓာတ်သတ္တုအရင်းအမြစ်များနှင့် ရတနာများ၊ ရှေးဟောင်းအနုပညာပစ္စည်းများ၊ သဘာဝသမိုင်းနှင့်သိပ္ပံဆိုင်ရာ အရေးပါသောအရာဝတ္ထုများ၊ သဘာဝသယံဇာတများကိုတွေ့ရှိရလျှင် ဖက်စပ်ကုမ္ပဏီသည် မြန်မာနိုင်ငံတော်ရှိ သက်ဆိုင်ရာအစိုးရအဖွဲ့အစည်းများသို့ အကြောင်းကြားတင်ပြရမည်။ ထိုပစ္စည်းများကို ယင်းသက်ဆိုင်ရာ အဖွဲ့အစည်းကလွတ်လပ်စွာ တူးဖော်ခွင့်ရှိစေရမည်။

**မလွန်ဆန်နိုင်သောဖြစ်ရပ်များ**

၇၃။ စာချုပ်ဝင်တစ်ဖက်ဖက်သည် မိမိ၏တာဝန်ဝတ္တရားများကို ဆောင်ရွက်ရာတွင် မလွန်ဆန်နိုင်သောဖြစ်ရပ်များကြောင့် ပျက်ကွက်ခြင်း၊ နှောင့်နှေးခြင်းများရှိသဖြင့် အခြားစာချုပ်ဝင်တစ်ဖက်ဖက်တွင် နစ်နာမှုများပေါ်ပေါက်လျှင် ထိုသူသည် နစ်နာမှုအတွက် တာဝန်မရှိစေရ။ "မလွန်ဆန်နိုင်သောဖြစ်ရပ်များ" ဆိုသည်မှာအစိုးရတစ်ဖွဲ့ဖွဲ့၏ တားဆီးမိန့်၊ သပိတ်မှောက်မှု၊ စစ်ဖြစ်မှု၊ ပိတ်ဆို့တားဆီးမှု၊ သူပုန်ထမှု၊ အဓိကရုန်းဖြစ်မှု၊ ကူးစက်ရောဂါပြန့်ပွါးမှု၊ ပေါက်ကွဲမှု၊ မီးလောင်မှု၊ ရေကြီးမှု၊ လေမုန်တိုင်းကျမှုစသော စာချုပ်ဝင်တစ်ဖက်ဖက်က လိုအပ်သောသတိနှင့်ဝီရိယရှိစေကာမူ မလွန်ဆန်နိုင် မကျော်လွှားနိုင်သည့် အလားတူဖြစ်ရပ်များဖြစ်သည်။

၇၄။ စာချုပ်ဝင်နှစ်ဦးသည် ထိုကဲ့သို့မလွန်ဆန်နိုင်သော ဖြစ်ရပ်များနှင့် ကြုံတွေ့ရလျှင်ကြုံတွေ့ရသူက အခြားစာချုပ်ဝင်တစ်ဖက်အားထိုအဖြစ်အပျက်ကို ဖြစ်ပွားပြီး ၇-ရက်အတွင်း ဖြစ်ပွားမှုအခြေအနေကို အသေးစိတ်အကြောင်းကြားရန်နှင့် ထိုကာလအတွင်းဖြစ်ပျက်မှုအခြေအနေ၊ မိမိကဆုံးဖြတ်ဆောင်ရွက်ရွက်မှုအခြေအနေနှင့် အရေးယူ ဆောင်ရွက်ခဲ့မှုအခြေအနေများကို အကြောင်းကြားရမည်။ ထိုမလွန်ဆန်နိုင်သောဖြစ်ရပ်ကို ခံရသူ ၏တာဝန်များကို အခြားစာချုပ်ဝင်တစ်ဖက်၏သဘောတူညီချက်အရ ထိုမလွန်ဆန်နိုင်သည့်အခြေအနေ ကာလအတွင်းဆိုင်းငံ့စေရမည်။ သို့ရာတွင်ထိုဆိုင်းငံ့ကာလသည် အကျိုးအကြောင်းဆက်နွယ်မှုအရ လိုအပ်သည်ထက်ပိုမို၍ မကြာစေရပဲထိုအဖြစ်အပျက်ကိုလည်း မလွန်ဆန်နိုင်သောဖြစ်ရပ် ခံရသူက အမြန်ဆုံးဖြစ်နိုင်သမျှ ဖယ်ရှားပစ်ရမည်။

**ခုံသမာဓိဖြင့်ဆုံးဖြတ်ခြင်း (အနုညာတစီရင်ခြင်း)**

၇၅။ "DHSHD"နှင့် "ZKB"တို့အကြားစာချုပ်နှင့်ပတ်သက်၍ အငြင်းပွားမှုတစ်စုံတစ်ရာပေါ်ပေါက်လာပါက ရှေးဦးစွာ နှစ်ဦးနှစ်ဖက်အကြား ကောင်းမွန်မျှတသောပြေလည်မှု ရရှိရေးအတွက်ညှိနှိုင်းခြင်းဖြင့် ပြေလည်အောင်ဆောင်ရွက်ရမည်။

၇၆။ နှစ်ဦးနှစ်ဖက်အကြားအငြင်းပွားမှုကို ကြေလည်အောင်မဖြေရှင်းနိုင်ပါက ထိုအငြင်းပွါးမှုကို အနုညာတ နည်းအားဖြင့် ပြည်ထောင်စုမြန်မာနိုင်ငံ၊ ရန်ကုန်မြို့တွင်ဖြေရှင်းရမည်။ အနုညာတခုံလူကြီးတစ်ဦးစီကို စာချုပ်ဝင်တစ်ဖက်စီမှ ခန့်ထားပြီး ထိုအငြင်းပွားမှုကို ဖြေရှင်းပါလျက်အငြင်းပွားမှုမပြီးပြတ်ပါက ခုံသမာဓိနှစ်ဦးကနောက်ဆုံးအဆင့် ခုံသမာဓိလူကြီး(Umpire) တစ်ဦးကို နှစ်ဦးသဘောတူရွေးချယ်ပြီး ဆုံးဖြတ်စေရမည်။ ခုံလူကြီးနှစ်ဦး သို့မဟုတ်ခုံသမာဓိလူကြီး၏ အဆုံး အဖြတ်သည် အပြီးသတ်ဖြစ်စေရမည့်အပြင် နှစ်ဖက်စာချုပ်ဝင်များအပေါ် အတည်ဖြစ်စေရမည်။ အနုညာတစီရင်ဆုံးဖြတ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းသည်အနုညာတအက်ဥပဒေ (မြန်မာနိုင်ငံအက်ဥပဒေ ၄/၁၉၄၄) နှင့် နောက်ပိုင်းပြင်ဆင်ချက်များနှင့် အညီဖြစ်စေရမည်။

**ရှေ့ပြေးစည်းကမ်းသတ်မှတ်ချက်**

၇၇။ ဤသဘောတူစာချုပ်ကို ဆောင်ရွက်ခြင်းနှင့် အကောင်အထည်ဖေါ်ခြင်းတို့သည် ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ အာဏာပိုင်အဖွဲ့အစည်းများထံမှ လိုအပ်သည့်သဘောတူညီချက်များနှင့် အခါအားလျော်စွာ သတ်မှတ်သည့်စည်းကမ်းများ အပေါ်တွင်တည်ရှိသည်။

**မြေငှားချထားသည့် ပစ္စည်းများအားပြန်လည်လွှဲအပ်ခြင်း**

၇၈။ (က) မြေငှားချထားသည့်ကာလအတွင်းဖက်စပ်ကုမ္ပဏီက ၁၈ကျင်းပါဂေါက်ကွင်း၊ ရေကူးကန်၊ တင်းနစ်ကွင်း၊ လမ်း၊ လျှပ်စစ်ဆက်သွယ်ခြင်းနှင့် မြေအလှဆင်ခြင်းစသောဖွံ့ဖြိုးရေးလုပ်ငန်းများ(infrastructure) များကို လည်းကောင်း၊ လုံးချင်းအိမ်များကိုလက်ဝယ်ထားရှိသူများက၊ အဆိုပါလုံးချင်းအိမ်များကိုလည်းကောင်း၊ပုံမှန် ထိန်းသိမ်းမှု၊ ပြုပြင်မှုတို့ကိုပြုလုပ်ရန် တာဝန်ယူရမည်။

(ခ) မြေငှားကာလကုန်ဆုံးပြီး ၃လအတွင်း မြေနှင့်တကွ လက်ဝယ်ထားရှိသောမရွှေ့မပြောင်းနိုင်သည့် ပစ္စည်းများကို (အဆောက်အဦးများ၊ သစ်ပင်များ၊ လမ်းများ၊ ခြံစည်းရိုးများစသည့် အားလုံးမြေနှင့်ဆက်စပ်သော ပစ္စည်းများ အပါအဝင်)ကို "DHSHD" သို့ ဖက်စပ်ကုမ္ပဏီမှ အဖိုးစားနားမဲ့ဖြင့် ပြန်လည်လွှဲပြောင်းပေးရမည်။

(ဂ) အကယ်၍ ဖက်စပ်ကုမ္ပဏီအနေနှင့် ဆက်လက်လုပ်ကိုင်ဆောင်ရွက်ခြင်းပြုလိုပါက "DHSHD"နှင့် စာချုပ် အသစ်ပြုလုပ်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့တင်ပြ၍ အတည်ပြုချက်ရယူကာ ဆက်လက်လုပ်ကိုင်ခွင့်ရရှိ စေရန်ဆောင်ရွက်ရမည်။

(ဃ) လုံးချင်းအိမ်များတွင်နေထိုင်သူ သို့မဟုတ် နေထိုင်ခွင့်ရရှိသူများသည် ၎င်းတို့ရရှိမည့်ဂရံသက်တမ်းကုန်ဆုံးပြီးနောက် ဆက်လက်နေထိုင်ခွင့်ရရှိရန်အတွက် မြေငှားကာလတိုးမြှင့်ခွင့်ပြုရန် "DHSHD"သို့ လျှောက်ထားရမည်။

(င) "ZKB" မှ ဤစာချုပ်ပါဆောင်ရွက်ရန် သို့မဟုတ် လိုက်နာရန်တာဝန်များကို ပျက်ကွက်၍ ဤစာချုပ်ရပ်စဲသည့် အခါ မြေနှင့်တကွ မြေပေါ်တွင်တည်ရှိသော မပြောင်းရွှေ့နိုင်သည့်ပစ္စည်းများ (အဆောက်အဦးများ၊ သစ်ပင်များ၊ လမ်းများ၊ ခြံစည်းရိုးများ စသည့်အားလုံး၊ မြေနှင့်ဆက်စပ်သောပစ္စည်းအပါအဝင်)ကို "DHSHD" သို့ အဖိုးစားနားမဲ့ဖြင့် ဖက်စပ်ကုမ္ပဏီမှ ပြန်လည်လွှဲပြောင်းပေးရမည်။

**စာပေးစာယူပြုလုပ်ရန်လိပ်စာ**

၇၉။ စာပေးစာယူပြုလုပ်ရာတွင် မြန်မာဘာသာနှင့် အင်္ဂလိပ်ဘာသာတို့ဖြင့် မှတ်ပုံတင်စာပို့၊ လေကြောင်းစာပို့၊ အမြန် ချောပို့၊ တဲလက်၊ ဖက်စ်တို့ကို အောက်ပါလိပ်စာများအတိုင်း ပို့ရမည်။ အကယ်၍ လိပ်စာအသစ်ပြောင်းပါက ထိုပြောင်းသူ က ချက်ချင်းအချင်းချင်း အကြောင်းကြားထားရမည်။

(က) မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန၊ အမှတ် ၂၂၈/၂၃၄၊ ဗိုလ်ချုပ်အောင်ဆန်းလမ်း၊ ရန်ကုန်မြို့။
ဖုန်း ၀၉၅-၀၁-၂၉၄၄၈၈
ဖက်(စ်) ၀၉၅-၀၁-၂၄၆၇၅၈

(ခ) ဇေကမ္ဘာကုမ္ပဏီလီမိတက်၊ မြေညီထပ်၊ တိုက်(၃)၊ ၈-မိုင်လမ်းဆုံ၊ ပြည်လမ်း၊ မရမ်းကုန်းမြို့နယ်၊ ရန်ကုန်မြို့။
ဖုန်း ၆၆၄၈၇၆၊ ၆၆၄၉၂၀
ဖက်(စ်) ၆၆၅၀၅၂

**အထွေထွေ**

၈၀။ ဤစာချုပ်ပါ ပြဋ္ဌာန်းချက်များသည် သင်းဖွဲ့မှတ်တမ်း၊ သင်းဖွဲ့စည်းမျဉ်းတို့နှင့် ညီညွတ်မှုမရှိပါက ဤစာချုပ်ပါ ပြ ဋ္ဌာန်းချက်များက လွှမ်းမိုးစေရမည်။

၈၁။ ဤစာချုပ်သည် နှစ်ဦးနှစ်ဖက်သဘောပေါက်နားလည်ကြသဖြင့် ယင်းအကြောင်းအရာများအပေါ် ယခင်ကအချင်းချင်း သဘောတူညီချက်များ၊ နားလည်မှုများအားလုံးကို လွှမ်းမိုးသည်။

၈၂။ စာချုပ်၏နောက်ဆက်တွဲများ၊ မြေငှားစာချုပ်၊ မြေပုံ၊ ပုံစံများ၊ စာရင်းဇယားများအားလုံးသည် ဤစာချုပ်၏ တစ်စိတ် တစ်ဒေသဖြစ်စေရမည်။

သက်သေထင်ရှားစိမ့်သောငှာ၊ ဤစာချုပ်ပါအချက်အလက်များကို နှစ်ဦးနှစ်ဖက်တို့သည် သိရှိသဘောတူကြောင်း၊ အထက်ဖော်ပြပါနေ့ရက်တွင် တံဆိပ်ရိုက်နှိပ်၍ အသိသက်သေများရှေ့တွင် လက်မှတ်ရေးထိုးကြပါသည်။

**ဦးအုံကျော်**
**(ညွှန်ကြားရေးမှူးချုပ်)**
**မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန**

**ဦးခင်ရွှေ**
**(အုပ်ချုပ်မှုဒါရိုက်တာ)**
**ဇေကမ္ဘာကုမ္ပဏီလီမိတက်**

**(အသိသက်သေများ)**

(၁)

အမည်
မှတ်ပုံတင်အမှတ်
အလုပ်အကိုင်
လိပ်စာ

(၂)

အမည်
မှတ်ပုံတင်အမှတ်
အလုပ်အကိုင်
လိပ်စာ

# ပြည်ထောင်စု မြန်မာနိုင်ငံတော် ဆောက်လုပ်ရေးဝန်ကြီးဌာန

# မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန

# နှင့်

# ရှိုင်ရယ်မင်္ဂလာဒုံဂေါ့ဖ်အင်န်ကန်းထရီးကလပ်ကုမ္ပဏီလီမိတက်

# တို့အကြားချုပ်ဆိုသည့်

# မြေငှားစာချုပ်

ရွှင်ရယ်မင်္ဂလာဒုံဂေါ့ဖ်အင်န်ကန်းထရီးကလပ် ကုမ္ပဏီလီမိတက်
**Royal Mingalardon Golf & Country Club Co., Ltd.**

မာတိကာ


| စဉ် | အကြောင်းအရာ | စာမျက်နှာ |
|---|---|---|
| ၁။ | စာချုပ်ချုပ်ဆိုသူများ | ၁ |
| ၂။ | အခြေခံသဘောတူညီချက်များ | ၁ |
| ၃။ | ငှားရမ်းခ | ၁ |
| ၄။ | မြေငှားချထားခံရသူ၏တာဝန်များ | ၂ |
| ၅။ | မြေငှားရမ်းသူ၏တာဝန်များ | ၂ |
| ၆။ | စာချုပ်အကျိုးသက်ရောက်ခြင်း | ၂ |
| ၇။ | စာချုပ်ကိုပြန်လည်ညှိနှိုင်းခြင်း | ၂ |
| ၈။ | ပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်ခြင်း | ၃ |
| ၉။ | သယံဇာတပစ္စည်းတွေ့ရှိခြင်း | ၃ |
| ၁၀။ | မလွန်ဆန်နိုင်သောဖြစ်ရပ်များ | ၃ |
| ၁၁။ | ရှေ့ပြေးစည်းကမ်းသတ်မှတ်ချက်များ | ၃ |
| ၁၂။ | အာမခံချက်နှင့်ကိုယ်စားပြုခြင်း | ၃ |
| ၁၃။ | မြေငှားချထားသည့်ပစ္စည်းများအားပြန်လည်လွှဲအပ်ခြင်း | ၄ |
| ၁၄။ | ခုံသမာဓိဖြင့်ဆုံးဖြတ်ခြင်း (အနုညာတစီရင်ခြင်း) | ၄ |
| ၁၅။ | စာချုပ်ရုပ်သိမ်းခြင်း | ၄ |
| ၁၆။ | မြေပေါ်သို့ပြန်လည်ဝင်ရောက်ခွင့် | ၅ |
| ၁၇။ | လုပ်ငန်းဆောင်ရွက်မှုအတွက်ဘဏ်အာမခံထားရှိခြင်း | ၅ |
| ၁၈။ | အထွေထွေ | ၅ |
| ၁၉။ | စာပေးစာယူပြုလုပ်ရန်လိပ်စာ | ၆ |

# မြေငှားစာချုပ်

**စာချုပ်ချုပ်ဆိုသူများ**

၁။ ဤမြေငှားစာချုပ်ကို ပြည်ထောင်စုမြန်မာနိုင်ငံတော်၊ ရန်ကုန်မြို့၌ ၁၉၉၇ ခုနှစ်၊ လ၊ ( )ရက်နေ့တွင် ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ၊ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ အမှတ် (၂၂၈/၂၃၄၊ ဗိုလ်ချုပ်အောင်ဆန်းလမ်း၊ ဗိုလ်တထောင်မြို့နယ်၊ ရန်ကုန်မြို့ရှိ **မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန** (ဤမှနောင်တွင် "မြေငှားရမ်းသူ" ဟုရည်ညွှန်း ခေါ်ဆိုမည်ဖြစ်ပြီး ယင်းစကားရပ်တွင် စာသားများအရသော်လည်းကောင်း၊ အဓိပ္ပါယ်အရသော်လည်းကောင်း၊ ရှေ့နောက် ဆန့်ကျင်ကွဲလွဲခြင်းမရှိပါက ၎င်း၏တရားဝင်ကိုယ်စားလှယ်များ၊ ဆက်ခံသူများနှင့် ဥပဒေအရခွင့်ပြုလွှဲအပ်ခံရသူများ ပါဝင်သည်ဟုမှတ်ယူရမည်) ကဤမြေငှားစာချုပ်အားချုပ်ဆိုရန် ကိုယ်စားပြုတာဝန်ပေးအပ်ခြင်းခံရသော **ညွှန်ကြားရေးမှူးချုပ် ဦးအုံ့ကျော်** ကတစ်ဖက်၊

နှင့်

တိုက်(၃)၊ မြေညီထပ်၊ ၈-မိုင်လမ်းဆုံ၊ ပြည်လမ်း၊ မရမ်းကုန်းမြို့နယ်၊ ရန်ကုန်မြို့ရှိ **ရွှိုင်ရယ်မင်္ဂလာဒုံဂေါ့ဖ်အင်န် ကန်းထရီးကလပ်ကုမ္ပဏီလီမိတက်** (ဤမှနောင်တွင် "မြေငှားချထားခံရသူ" ဟုရည်ညွှန်း ခေါ်ဆိုမည်ဖြစ်ပြီး ယင်းစကားရပ်တွင် စာသားများအရသော်လည်းကောင်း၊ အဓိပ္ပါယ်အရသော်လည်းကောင်း၊ ရှေ့နောက်ဆန့်ကျင်ကွဲလွဲခြင်း မရှိပါက၎င်း၏တရားဝင် ကိုယ်စားလှယ်များ၊ ဆက်ခံသူများနှင့်ဥပဒေအရ ခွင့်ပြုလွှဲအပ်ခံရသူများပါဝင်သည်ဟုမှတ်ယူရမည်) က ဤမြေငှားစာချုပ်အား ချုပ်ဆိုရန်ကိုယ်စားပြု တာဝန်ပေးအပ်ခြင်းခံရသော **အုပ်ချုပ်မှုဒါရိုက်တာဦးခင်ရွှေ** က အခြားတစ်ဖက် တို့ကအောက်ပါအတိုင်း ချုပ်ဆိုကြပါသည်။

**အခြေခံသဘောတူညီချက်များ**

၂။ (က) "မြေငှားရမ်းသူ"သည်၊ ငှားရမ်းမည့်မြေကို ဥပဒေအရ တရားဝင်ပိုင်ဆိုင်ခွင့်ရှိကြောင်း ကိုယ်စားပြုအာမခံချက် ပေးသဖြင့်လည်းကောင်း၊

(ခ) "မြေငှားရမ်းသူ"က၊ နောက်ဆက်တွဲ(က)တွင် ဖော်ပြထားသောမင်္ဂလာဒုံမြို့နယ်၊ အမှတ်(၃)လမ်းမကြီးအရှေ့ဘက်၊ မြေတိုင်းရပ်ကွက်အမှတ်-၅၃၄(ဘီ) ရှိ မြေဧက ၂၈၀ဧကအကျယ်အဝန်းရှိမြေနေရာ (နောင်တွင်"ငှားရမ်းမည့်မြေ" ဟုရည်ညွှန်းခေါ်ဆိုရမည်)ကို ငှားရမ်းလိုသောဆန္ဒရှိပြီး၊ မြေငှားချထားခြင်းခံရသူက အောက်တွင်ဆက်လက် ဖော်ပြမည့် စည်းမျဉ်းစည်းကမ်းများနှင့်အညီ ငှားရမ်းမည့်မြေကို ၁၈ကျင်းပါဂေါက်ကွင်း၊ရေကူးကန်၊ တင်းနစ်ကွင်း များနှင့် လုံးချင်းအိမ်ရာများ ဆောက်လုပ်ရန်အတွက် ငှားရမ်းလိုသဖြင့်လည်းကောင်း၊ ဤ"မြေငှားစာချုပ်"ကို နှစ်ဦးနှစ်ဖက်အကျေအလည်ညှိနှိုင်းပြီး အောက်ပါအတိုင်း သဘောတူညီကြပါသည်။

၃။ အောက်ဖော်ပြပါအပိုဒ်(၄)ပါ မြေငှားရမ်းခကိုပေးချေရန်သဘောတူညီချက်ကိုထောက်ထား၍ "မြေငှားရမ်းသူ"သည် "မြေငှားချထားခံရသူ"သို့ ငှားရမ်းမည့်မြေပေါ်တွင် အောက်ဖော်ပြပါကာလများအတိုင်းအငှားချထားပေးရန်သဘောတူပါသည်။

(က) လုံးချင်းအိမ်ရာများဆောက်လုပ်ပြီးစီး၍ရောင်းချသည့်အခါ ဝယ်ယူသူများအမည်ဖြင့် နှစ်(၆၀)ကာလအထိ အငှားချထားပေးရန်၊

(ခ) စီမံကိန်းအရ၊ ဂေါက်ကွင်း၊ ရေကူးကန်၊ တင်းနစ်ကွင်းနှင့် ၎င်းတို့နှင့်ဆက်စပ်လျက်ရှိသည့် အဆောက်အအုံ စသည်များကို တည်ဆောက်ပြီးစီးသောအခါ ကုမ္ပဏီအမည်ဖြင့် နှစ်(၃၀)ကာလအထိ လည်းကောင်း၊ ယင်း နှစ်(၃၀)ပြည့်မြောက်ပြီးနောက်၊ ထပ်မံ၍ (၅)နှစ်စီသက်တမ်း (၄)ကြိမ်တိုးမြှင့်၍လည်းကောင်း၊ အငှားချထားပေးရန်၊

**ငှားရမ်းခ**

၄။ မြေ၂၈၀ဧကကို အငှားချထားပေးရန်အတွက် တစ်ဧကလျှင် ကျပ် ၃၅သိန်းနှုန်းဖြင့် တွက်ချက်ရရှိသောကျပ်သိန်း ၁၀၀၁၀ကို မြေငှားရမ်းသူမှ စီမံကိန်းတန်ဘိုး၏ ၃၀%နှင့် ညီမျှသောရင်းနှီးမြှုပ်နှံမှုအဖြစ် Royal Mingalardon Golf & Country Club Co., Ltd.တွင် ထည့်ဝင်သည်ဟု သတ်မှတ်သည်။

**မြေငှားချထားခံရသူ၏ တာဝန်များ**

၅။ "မြေငှားချထားခံရသူ"၏ တာဝန်များမှာ အောက်ပါအတိုင်းဖြစ်သည်-

(က) တည်ဆောက်မည့်ဂေါက်ကွင်း၊ရေကူးကန်၊ တင်းနစ်ကွင်းနှင့် အဆင့်မြင့်လုံးချင်းအိမ်ရာ (၁၀၀)လုံးတို့အတွက် **Mingalardon Royal Golf & Country Club Co., Ltd.** ၏(ခ)အစုရှယ်ယာဝင်ဖြစ်သည့် ဇေကမ္ဘာကုမ္ပဏီ လီမိတက်မှ စီမံကိန်းတန်ဘိုး၏ ၇၀%နှင့်ညီမျှသော ကျပ်သိန်း ၂၃၃၅၇ ပြည့်မီသည်အထိ ကျခံဆောင်ရွက်ပြီးနောက် ပိုမိုလာသော ကုန်ကျစရိတ်များကို မြေငှားချထားခံရသူက တာဝန်ယူရမည်။

(ခ) ငှားရမ်းမည့်မြေနေရာသို့ မြေငှားရမ်းသူ၏ကိုယ်စား တာဝန်ပေးအပ်ခြင်းခံရသူများအား ၎င်းတို့၏လုပ်ငန်း တာဝန်များကို ထမ်းဆောင်ရန်အလို့ငှာ ဝင်ရောက်ခွင့်ပြုရမည်။

(ဂ) ငှားရမ်းမည့်မြေသို့မဟုတ် ၎င်း၏အစိတ်အပိုင်းပေါ်တွင် အကောင်အထည်ဖေါ်ဆောင်ရွက်မည့်လုပ်ဆောင်မှုများ နှင့်လုပ်ငန်းဆောင်ရွက်မှုများအားလုံးသည် ပြည်ထောင်စုမြန်မာနိုင်ငံ၏တရားဥပဒေများနှင့် အညီအညွတ်ဖြစ် ကြောင်းအာမခံချက်ပေးရမည်။

(ဃ) ငှားရမ်းမည့်မြေသို့မဟုတ် ၎င်းအစိတ်အပိုင်းပေါ်တွင် ကျသင့်မည့်မြေငှားခမှအပ စည်ပင်သာယာခွန်နှင့်အခြား ကျသင့်သည့်အခွန်နှုန်းထားများကို ပေးချေရမည်။

(င) "မြေငှားချထားခြင်းခံရသူ"သည်၊ "မြေငှားရမ်းသူ"၏ တရားဝင်စာဖြင့်ခွင့်ပြုချက်မရှိပဲ၊ ဤမြေငှားစာချုပ်၏ ရည်ရွယ်ချက်တစုံတရာကို ပြောင်းလဲခြင်း၊ သို့မဟုတ် တည်ဆောက်ထားသောအဆောက်အဦးများကို ပြောင်း လဲခြင်းမပြုရန် တာဝန်ယူသည်။

**မြေငှားရမ်းသူ၏ တာဝန်များ**

၆။ "မြေငှားရမ်းသူ"၏တာဝန်များမှာ အောက်ပါအတိုင်းဖြစ်သည်-

(က) "မြေငှားချထားခံရသူ"အား ငှားရမ်းမည့်မြေကို လက်ရောက်ပေးအပ်ရမည်။

(ခ) "မြေငှားချထားခံရသူ"အား ငှားရမ်းမည့်မြေသို့ ရည်မှန်းထားသည့်လုပ်ငန်းတာဝန်နှင့် သင့်မြတ်လျော်ကန်သည့် ဆောက်လုပ်မှုလုပ်ငန်းများဆောက်လုပ်ရန်အတွက် ဝင်ရောက်နိုင်ခွင့်ပေးရမည်။ မြေငှားချထားခံရသူကတင်ပြ လာသော ဆောက်လုပ်မှုပုံစံများကို စီစစ်အတည်ပြုပေးရမည်။

(ဂ) "မြေငှားချထားခံရသူ"အား မြေငှားစာချုပ်သက်တမ်းကာလအတွင်း မည်သည့်အနှောက်အယှက်၊ အဟန့်အတား မျှမရှိပဲ ငှားရမ်းမည့်မြေကို ငြိမ်သက်စွာနှင့်အေးချမ်းစွာ လက်ဝယ်ထားနိုင်ခွင့်ပေးရမည်။

(ဃ) "မြေငှားရမ်းသူ"သည် ငှားရမ်းသည့်မြေအတွက် မြေခွန်ကိုပေးဆောင်ရမည်။

(င) "မြေငှားချထားခံရသူ"အား ဂေါက်ကွင်း၊ ရေကူးကန်၊ တင်းနစ်ကွင်းနှင့် ၎င်းတို့နှင့်ဆက်စပ်လျှက်ရှိသည့် အဆောက်အဦးများကိုနှစ် (၃၀)မြေငှားဂရံနှင့်ယင်းနှစ်(၃၀)ဂရံပြည့်မြောက်ပြီးနောက် ထပ်မံ၍ (၅)နှစ်စီ ဂရံသက်တမ်း (၄)ကြိမ်တိုးမြှင့်၍ ထုတ်ပေးရမည်။

(စ) "မြေငှားချထားခံရသူ"ကရောင်းချပြီးသော လုံးချင်းအိမ်ရာများ၏အိမ်ရှင်များအား နှစ် (၆၀)မြေငှားဂရံထုတ် ပေးရမည်။

**စာချုပ်အကျိုးသက်ရောက်ခြင်း**

၇။ ဤမြေငှားစာချုပ်သည် စာချုပ်ဝင်နှစ်ဦး၏ မြေငှားစာချုပ်ကို လက်မှတ်ရေးထိုးသည့်နေ့မှစ၍ အကျိုးသက်ရောက်သည်။

**စာချုပ်ပြန်လည်ညှိနှိုင်းခြင်း**

၈။ ဤမြေငှားစာချုပ်တွင် မျှော်မှန်းမထားသော အခြေအနေများပေါ်ပေါက်လာခြင်းကြောင့် မြေငှားစာချုပ်ကို ပြင်ဆင်ရန် လိုအပ်ပါက စာချုပ်ဝင်များသည် နှစ်ဦးနှစ်ဖက်ညှိနှိုင်းပြီး "ပြည်ထောင်စုမြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်" သို့တင်ပြ၍ သဘောတူညီချက်ရယူပြီးနောက် စာဖြင့်ရေးသား၍ ပြင်ဆင်ရမည်။ ထိုသို့ပြင်ဆင်ချက်များကို ဤမြေငှားရမ်းစာချုပ်၏ အစိတ်အပိုင်းတစ်ရပ်အဖြစ် ပါဝင်သည်ဟုမှတ်ယူရမည်။

**ပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်ခြင်း**

၉။ "မြေငှားချထားခံရသူ"သည် ဆောက်လုပ်ထားသော ဂေါက်ကွင်း၊ ရေကူးကန်၊ တင်းနစ်ကွင်းများနှင့် အဆင့်မြင့်လူနေအိမ်များတို့၏ ပတ်ဝန်းကျင်တဝိုက်တွင် ညစ်ညမ်းမှုတို့မှကာကွယ်ရန်အတွက် လိုအပ်သောကြိုတင်ပြင်ဆင်မှုများကိုငွေး၏စရိတ်ဖြင့် ကျခံဆောင်ရွက်ရမည်။

**သယံဇာတပစ္စည်းတွေ့ရှိခြင်း**

၁၀။ "မြေငှားချထားခံရသူ"သည် ငှားရမ်းမြေပေါ်တွင်တူးဖော်ခြင်းပြုလုပ်စဉ် အရေးကြီးသောမည်သည့်တွေ့ရှိချက်ကိုမဆို မြေငှားရမ်းသူထံ ချက်ချင်းအကြောင်းကြားရမည်။ မြေတူးစဉ်တွေ့ရှိရသော ရှေးဟောင်းအနုပညာပစ္စည်းများ၊ သဘာဝသမိုင်းနှင့် သိပ္ပံဆိုင်ရာအရေးပါသောအရာဝတ္ထုများ၊ သဘာဝသယံဇာတများ၊ ဓာတ်သတ္တုအရင်းအမြစ်များ၊ ရတနာများ၊ ရတနာသိုက်များ၊ ရေနံနှင့်ဓာတ်ငွေ့များကို တွေ့ရှိပါက "မြေငှားရမ်းသူ"မှတဆင့် သက်ဆိုင်ရာအစိုးရအဖွဲ့အစည်းများသို့ အကြောင်းကြားရမည်။ နိုင်ငံတော်အစိုးရသည် အထက်ပါသယံဇာတပစ္စည်းများကို လွတ်လပ်စွာတူးဖော်ရယူခွင့်ရှိသည်။

**မလွန်ဆန်နိုင်သောဖြစ်ရပ်များ**

၁၁။ စာချုပ်ဝင်တစ်ဖက်ဖက်သည် မိမိ၏တာဝန်ဝတ္တရားများကို ဆောင်ရွက်ရာတွင် မလွန်ဆန်နိုင်သောဖြစ်ရပ်များကြောင့် ပျက်ကွက်ခြင်း၊ နှောင့်နှေးခြင်းများရှိသဖြင့် အခြားစာချုပ်ဝင်တစ်ဖက်ဖက်တွင် နစ်နာမှုများပေါ်ပေါက်လျှင် ထိုသူသည်ထိုနစ်နာမှုအတွက် တာဝန်မရှိစေရ။ "မလွန်ဆန်နိုင်သောဖြစ်ရပ်များ" ဆိုသည်မှာ အစိုးရတစ်ဖွဲ့ဖွဲ့၏ တားဆီးမိန့်၊ သပိတ်မှောက်မှု၊ စစ်ဖြစ်မှု၊ ပိတ်ဆို့တားဆီးမှု၊ သူပုန်ထမှု၊ အဓိကရုန်းဖြစ်မှု၊ ကူးစက်ရောဂါပြန့်ပွားမှု၊ ပေါက်ကွဲမှု၊ မီးလောင်မှု၊ ရေကြီးမှု၊ လေမုန်တိုင်းကျမှုစသော စာချုပ်ဝင်တစ်ဖက်ဖက်က လိုအပ်သောသတိနှင့်ဝီရိယရှိစေကာမူ မလွန်ဆန်နိုင်မကျော်လွှားနိုင်သည့် အလားတူဖြစ်ရပ်များဖြစ်သည်။

၁၂။ စာချုပ်ဝင်နှစ်ဦးသည် ထိုကဲ့သို့မလွန်ဆန်နိုင်သော ဖြစ်ရပ်များနှင့်ကြုံတွေ့ရလျှင် ကြုံတွေ့ရသူကအခြားစာချုပ်ဝင်တစ်ဖက်အားထိုအဖြစ်အပျက်ကို ဖြစ်ပွားပြီး ၇-ရက်အတွင်း ဖြစ်ပွားမှုအခြေအနေကို အသေးစိတ်အကြောင်းကြားရန်နှင့် ထိုကာလအတွင်းဖြစ်ပျက်မှုအခြေအနေ၊ မိမိကဆုံးဖြတ်ဆောင်ရွက်မှုအခြေအနေနှင့်၊ အရေးယူဆောင်ရွက်ခဲ့မှုအခြေအနေများကို အကြောင်းကြားရမည်။ ထိုမလွန်ဆန်နိုင်သောဖြစ်ရပ်ကို ခံရသူ၏တာဝန်များကို အခြားစာချုပ်ဝင်တစ်ဖက်၏သဘောတူညီချက်အရ ထိုမလွန်ဆန်နိုင်သည့်အခြေအနေကာလအတွင်း ဆိုင်းငံ့စေရမည်။ သို့ရာတွင် ထိုဆိုင်းငံ့ကာလသည်အကျိုးအကြောင်းဆက်နွှယ်မှုအရ လိုအပ်သည်ထက်ပိုမို၍ မကြာစေရပဲထိုအဖြစ်အပျက်ကိုလည်း မလွန်ဆန်နိုင်သောဖြစ်ရပ် ခံရသူက အမြန်ဆုံးဖြစ်နိုင်သမျှ ဖယ်ရှားပစ်ရမည်။

**ရှေးပြေးစည်းကမ်းသတ်မှတ်ချက်**

၁၃။ ဤမြေငှားစာချုပ်ကို ဆောင်ရွက်ရန်နှင့် အကောင်အထည်ဖော်ရန်အလို့ငှာ၊ ပြည်ထောင်စုမြန်မာနိုင်ငံ၏သက်ဆိုင်ရာအစိုးရအာဏာပိုင်များထံမှ လိုအပ်သောသဘောတူခွင့်ပြုချက်များ ရရှိမှုအပေါ်မူတည်သည်။

**အာမခံချက်နှင့်ကိုယ်စားပြုခြင်း**

၁၄။ မြေငှားစာချုပ်ဝင်များသည် ပြည်ထောင်စုမြန်မာနိုင်ငံ၏ တရားဥပဒေများအရ ဖွဲ့စည်း၍ အခွင့်အာဏာအပ်နှင်းခြင်းခံရသော တရားဝင်ရပ်တည်ခွင့်ရှိသူဖြစ်ပြီးငှင်းတွင် ဤမြေငှားစာချုပ်ကိုချုပ်ဆိုနိုင်ရန်အလို့ငှာ၊ လုပ်ပိုင်ခွင့်အာဏာ၊ ခိုင်မာသောဘဏ္ဍာရေးရပ်တည်မှုနှင့် အခွင့်အာဏာရှိသူဖြစ်ကြောင်း ကိုယ်စားပြုအာမခံချက်ပေးပါသည်။

**မြေငှားချထားသည့် ပစ္စည်းများအားပြန်လည်လွှဲအပ်ခြင်း**

၁၅။ (က) မြေငှားချထားသည့်ကာလအတွင်း ဖက်စပ်ကုမ္ပဏီက ၁၈ကျင်းပါဂေါက်ကွင်း၊ ရေကူးကန်၊ တင်းနစ်ကွင်း၊ လမ်း၊ လျှပ်စစ်၊ ရေ၊ ဆက်သွယ်ရေးလုပ်ငန်းများနှင့် မြေအလှဆင်ခြင်းစသော ဖွံ့ဖြိုးရေးလုပ်ငန်းများ၊ (infrastructure) များကိုလည်းကောင်း၊ လုံးချင်းအိမ်ရာများကိုလက်ဝယ်ထားရှိသူများက အဆိုပါလုံးချင်းအိမ်ရာများကိုလည်းကောင်း ပုံမှန်ထိန်းသိမ်းမှု၊ ပြုပြင်မှုတို့ကို ပြုလုပ်ရန် တာဝန်ယူရမည်။

(ခ) မြေငှားကာလကုန်ဆုံးပြီး ၃လအတွင်း မြေနှင့်တကွ လက်ဝယ်ထားရှိသောမရွှေ့မပြောင်းနိုင်သည့် ပစ္စည်းများကို (အဆောက်အဦးများ၊ သစ်ပင်များ၊ လမ်းများ၊ ခြံစည်းရိုးများစသည့် အားလုံးမြေနှင့်ဆက်စပ်သော ပစ္စည်းများအပါအဝင်) မြေငှားရမ်းသူအား ဖက်စပ်ကုမ္ပဏီမှ အဖိုးစားနားမဲ့ဖြင့် ပြန်လည်လွှဲပြောင်းပေးရမည်။

(ဂ) အကယ်၍ ဖက်စပ်ကုမ္ပဏီအနေနှင့် ဆက်လက်လုပ်ကိုင်ဆောင်ရွက်ခြင်းပြုလိုပါက မြေငှားရမ်းသူနှင့် မြေငှားစာချုပ်အသစ်ချုပ်ဆို၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အတည်ပြုချက်ရယူကာဆက်လက် လုပ်ကိုင်ခွင့်ရရှိစေရန်ဆောင်ရွက်ရမည်။

(ဃ) လုံးချင်းအိမ်များတွင်နေထိုင်သူသို့မဟုတ် နေထိုင်ခွင့်ရရှိသူများသည် လက်ရှိဂရံသက်တမ်းကုန်ဆုံးပြီးနောက်ဆက်လက်နေထိုင်ခွင့်ရရှိရန်အတွက် မြေငှားကာလတိုးမြှင့်ခွင့်ပြုရန် "DHSHD"သို့လျှောက်ထားရမည်။

**ခုံသမာဓိဖြင့်ဆုံးဖြတ်ခြင်း (အနုညာတစီရင်ခြင်း)**

၁၆။ မြေငှားရမ်းသူနှင့် မြေငှားရမ်းခြင်းခံရသူတို့အကြားစာချုပ်နှင့်ပတ်သက်၍ အငြင်းပွါးမှုတစ်စုံတစ်ရာပေါ်ပေါက်လာပါကရှေးဦးစွာ နှစ်ဦးနှစ်ဖက်အကြား ကောင်းမွန်မှုတသောပြေလည်မှု ရရှိရေးအတွက်ညှိနှိုင်းခြင်းဖြင့် ပြေလည်အောင်ဆောင်ရွက်ရမည်။

၁၇။ နှစ်ဦးနှစ်ဖက်အကြားအငြင်းပွားမှုကို ကြေလည်အောင်မဖြေရှင်းနိုင်ပါက ထိုအငြင်းပွားမှုကို အနုညာတနည်းအားဖြင့်ပြည်ထောင်စုမြန်မာနိုင်ငံ၊ ရန်ကုန်မြို့တွင်ဖြေရှင်းရမည်။ အနုညာတခုံလူကြီးတစ်ဦးစီကို စာချုပ်ဝင်တစ်ဖက်စီမှ ခန့်ထားပြီးထိုအငြင်းပွားမှုကို ဖြေရှင်းပါလျက်အငြင်းပွားမှုမပြီးပြတ်ပါက ခုံလူကြီးနှစ်ဦးကနောက်ဆုံးအဆင့် ခုံသမာဓိလူကြီး(Umpire) တစ်ဦးကို နှစ်ဦးသဘောတူရွေးချယ်ပြီး ဆုံးဖြတ်စေရမည်။ ခုံလူကြီးနှစ်ဦး (သို့မဟုတ်)ခုံသမာဓိလူကြီး၏ အဆုံးအဖြတ်သည်အပြီးသတ်ဖြစ်စေရမည့်အပြင် စာချုပ်ဝင်များအပေါ် အတည်ဖြစ်စေရမည်။ အနုညာတစီရင်ဆုံးဖြတ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းသည် အနုညာတအက်ဥပဒေ (မြန်မာနိုင်ငံအက်ဥပဒေ ၄/၁၉၄၄)နှင့် နောက်ပိုင်းပြင်ဆင်ချက်များနှင့်အညီ ဖြစ်စေရမည်။

**စာချုပ်ရုပ်စဲခြင်း**

၁၈။ ဤစာချုပ်သည် အောက်ဖော်ပြပါအခြေအနေ အဖြစ်အပျက်တစ်ရပ်ရပ်ဖြစ်ပေါ်လာပါက မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ခွင့်ပြုချက်ရရှိသည့်အခါ ကုမ္ပဏီသည်ရုပ်စဲသွားရမည်။

(က) စာချုပ်ဝင်နှစ်ဦးနှစ်ဖက်က စာချုပ်ရုပ်စဲရန် သဘောတူပြီး "ကော်မရှင်"သို့ စာဖြင့်တင်ပြလျက် "ကော်မရှင်" ကလည်းသဘောတူခွင့်ပြုသည့်အခါ၊

(ခ) စာချုပ်ဝင်တစ်ဖက်ဖက်က ဤစာချုပ်ပါဆောင်ရွက်ရန် သို့မဟုတ် လိုက်နာရန်တာဝန်များ ဆောင်ရွက်ရန်ပျက်ကွက်သည့်အခါ၊

(ဂ) လုပ်ငန်းတွင် ကြီးမားစွာဆက်တိုက် အရှုံးပေါ်ပေါက်သည့်အခါ၊

(ဃ) ကြိုတင်မမျှော်မှန်းနိုင်သည့်အပြင် တားဆီးခြင်းမပြုနိုင်သော ဖြစ်ရပ်များသည် ၆-လထက်မနည်း ဖြစ်ပေါ်နေသည့်အခါ၊

(င) လုပ်ငန်း၏ မူလရည်မှန်းချက်များကို အကောင်အထည်ဖော်နိုင်စွမ်း မရှိသည့်အခါ၊

(စ) "ZKB" ကုမ္ပဏီဖျက်သိမ်းသည့်အခါ၊

၁၉။ ဤစာချုပ်ရပ်စဲခြင်းအကျိုးသက်ရောက်သည့်အခါတွင် ကုမ္ပဏီကို မြန်မာနိုင်ငံများအက်ဥပဒေပါပြဋ္ဌာန်းချက်များအတိုင်း ဖျက်သိမ်းရမည်။ ထိုသို့ဖျက်သိမ်းသည့်အခါတွင် "DHSHD" ကငှါးရမ်းထားသော မြေနှင့်တကွ မရွှေ့ပြောင်းနိုင်သော ပစ္စည်းများကို ပြန်လည်သိမ်းယူပြီး အခြားပစ္စည်းများကိုလည်း အစိုးရမှတ်တမ်းတင်ရာဖြတ်များနှင့် စာရင်းရှင်းလင်းရေးအရာရှိအဖြစ် ဆောင်ရွက်သော စာရင်းစစ်များ၏ တန်ဖိုးဖြတ်ချက်များအရ တန်ဖိုးဖြတ်လျက် ရရန်ပိုင်ခွင့်နှင့် ပေးရန်တာဝန်များကိုလည်း ရှင်းလင်းစေရမည်။

၂၀။ ဤစာချုပ်ကို ရပ်စဲခြင်းသည် ဤစာချုပ်အရ တာဝန်ရှိသည့်လျှော်ကြေးများ နစ်နာကြေးများ ရရန်ပိုင်ခွင့်များကို မထိခိုက်စေရ။

၂၁။ ဤစာချုပ်မရပ်စဲမီက ပေါ်ပေါက်ခဲ့သည့် စာချုပ်ဝင်များ၏ တာဝန်နှင့်ရရန်ပိုင်ခွင့်များကို ဤစာချုပ်ရပ်စဲခြင်း သို့မဟုတ် စာချုပ်သက်တမ်းကုန်ဆုံးခြင်းက ပျက်ပြယ်မှုမရှိစေရ။

**မြေပေါ်သို့ပြန်လည်ဝင်ရောက်ခွင့်**

၂၂။ စာချုပ်ဝင်များအကြား နှစ်ဦးနှစ်ဖက်သဘောတူကြသည်မှာ အကယ်၍မြေငှားချထားခံရသူသည် ဤမြေငှားစာချုပ်၏ စည်းမျဉ်းစည်းကမ်းများကိုလိုက်နာရန် အဓိကအချက်တွင်ပျက်ကွက်ပြီး၊ ထိုပျက်ကွက်မှုအတွက် မြေငှားရမ်းသူက ထုတ်ပြန်သော အကြောင်းကြားစာရပြီး ရက်ပေါင်း(၆၀)အတွင်း၊ ပျက်ကွက်မှုကို ပြန်လည်၍မှန်ကန်အောင် ပြင်ဆင်ပေးခြင်းမပြုလုပ်လျှင် မြေငှားရမ်းသူသည် ဤမြေငှားစာချုပ်ပါ၊ ငှားရမ်းသည့်မြေပေါ်သို့ ပြန်လည်ဝင်ရောက်ခွင့်နှင့် မြေအားလုံးကို ပြန်လည်သိမ်း ယူခွင့်ရှိသည့်အပြင် ထိုသို့သိမ်းယူချိန်မှစ၍ မြေငှားရမ်းမှုကို ရပ်စဲအဆုံးသတ်ပြီးဖြစ်ရမည်။

၂၃။ ဤစာချုပ်ပါပြဋ္ဌာန်းချက်သည် သင်းဖွဲ့မှတ်တမ်း၊ သင်းဖွဲ့စည်းမျဉ်းတို့နှင့် ညီညွတ်မှုမရှိပါက ဤစာချုပ်ပါ ပြဋ္ဌာန်းချက် များအား လွှမ်းမိုးစေရမည်။

၂၄။ ဤစာချုပ်သည် နှစ်ဦးနှစ်ဖက်သဘောပေါက်နားလည်ကြသဖြင့် ယင်းအကြောင်းအရာများအပေါ် ယခင်က အချင်းချင်းသဘောတူညီချက်များ၊ နားလည်မှုများအားလုံးကို လွှမ်းမိုးသည်။

၂၅။ စာချုပ်၏နောက်ဆက်တွဲများ၊ ဖက်စပ်ဆောင်ရွက်ရန် သဘောတူစာချုပ်၊ မြေပုံ၊ ပုံစံများ၊ စာရင်းဇယားများအားလုံးသည် ဤစာချုပ်၏ တစ်စိတ်တစ်ဒေသ ဖြစ်စေရမည်။

**လုပ်ငန်းဆောင်ရွက်မှုအတွက် ဘဏ်အာမခံထားရှိခြင်း**

၂၆။ "ZKB" သည် ဖက်စပ်ကုမ္ပဏီစီမံကိန်းလုပ်ငန်းတန်ဖိုး၏ ၇၀ ရာခိုင်နှုန်းနှင့်ညီမျှသော ငွေပမာဏကျပ် ၂၃၃၅.၇ သန်း ၏ ၂ ရာခိုင်နှုန်းဖြစ်သော ကျပ် ၄၆.၇ သန်း (ကျပ်လေးဆယ့်ခြောက်ဒသမခုနစ်သန်း)ကို စာချုပ်လက်မှတ်ရေးထိုးသည့်နေ့မှ ရက်ပေါင်း(၃၀)အတွင်း ဘဏ်အာမခံ Performance Bank Guarantee ကို ထားရှိပြီး " DHSHD" သို့ ပေးအပ်ရမည်။

**အထွေထွေ**

၂၇။ ဤစာချုပ်ပါ ပြဋ္ဌာန်းချက်များသည် သင်းဖွဲ့မှတ်တမ်း၊ သင်းဖွဲ့စည်းမျဉ်းတို့နှင့် ညီညွတ်မှုမရှိပါက ဤစာချုပ်ပါ ပြဋ္ဌာန်းချက်များက လွှမ်းမိုးစေရမည်။

၂၈။ ဤစာချုပ်သည် နှစ်ဦးနှစ်ဖက်သဘောပေါက်နားလည်ကြသဖြင့် ယင်းအကြောင်းအရာများအပေါ် ယခင်ကအချင်းချင်း သဘောတူညီချက်များ၊ နားလည်မှုများအားလုံးကို လွှမ်းမိုးသည်။

၂၉။ စာချုပ်၏နောက်ဆက်တွဲများ၊ ဖက်စပ်ဆောင်ရွက်ရန်သဘောတူစာချုပ်၊ မြေပုံ၊ ပုံစံများ၊ စာရင်းဇယားများအားလုံးသည် ဤစာချုပ်၏ တစ်စိတ်တစ်ဒေသဖြစ်စေရမည်။

**စာပေးစာယူပြုလုပ်ရန်လိပ်စာ**

၂၃။ စာပေးစာယူပြုလုပ်ရာတွင် မြန်မာဘာသာနှင့် အင်္ဂလိပ်ဘာသာတို့ဖြင့် မှတ်ပုံတင်စာပို့၊ လေကြောင်းစာပို့၊ အမြန်ချောပို့၊ တဲလက်၊ ဖက်စ်တို့ကို အောက်ပါလိပ်စာများအတိုင်းပို့ရမည်။ အကယ်၍ လိပ်စာအသစ်ပြောင်းပါက ထိုပြောင်းသူကချက်ချင်း အချင်းချင်းအကြောင်းကြားထားရမည်။

(က) မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန၊ အမှတ် ၂၂၈/၂၃၄၊ ဗိုလ်ချုပ်အောင်ဆန်းလမ်း၊ ရန်ကုန်မြို့။
ဖုန်း ၀၉၅-၀၁-၂၉၄၄၈၈
ဖက်(စ်) ၀၉၅-၀၁-၂၄၆၇၅၈

(ခ) ဇေကမ္ဘာကုမ္ပဏီလီမိတက်၊ မြေညီထပ်၊ တိုက်(၃)၊ ၈-မိုင်လမ်းဆုံ၊ ပြည်လမ်း၊ မရမ်းကုန်းမြို့နယ်၊ ရန်ကုန်မြို့။
ဖုန်း ၆၆၄၈၇၆၊ ၆၆၄၉၂၀
ဖက်(စ်) ၆၆၅၀၅၂

သက်သေထင်ရှားစိမ့်သောငှာ ဤမြေငှားစာချုပ် ချုပ်ဆိုသူများသည် အထက်ဖော်ပြပါနေ့ရက်တွင် အောက်ပါအသိသက်သေများ ရှေ့မှောက်၌ဤစာချုပ်ကို လက်မှတ်ရေးထိုးကြပါသည်။

**(ညွှန်ကြားရေးမှူးချုပ်)**
**မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန**
**(ကိုယ်စားပြုသူ)**

**(အုပ်ချုပ်မှုဒါရိုက်တာ)**
**ရှိုင်ရယ်မင်္ဂလာဒုံဂေါ့ဖ်အင်န်ကန်းထရီးကလပ်ကုမ္ပဏီလီမိတက်**
**(ကိုယ်စားပြုသူ)**

**(အသိသက်သေများ)**

(၁)

အမည်
မှတ်ပုံတင်အမှတ်
အလုပ်အကိုင်
လိပ်စာ

(၂)

အမည်
မှတ်ပုံတင်အမှတ်
အလုပ်အကိုင်
လိပ်စာ



MINGALARDON GARDEN GOLF COURSE, YANGON, MYANMAR



REAR ELEVATION

SCALE 1:500



FRONT ELEVATION

SCALE 1:500

ROYAL MINGALARDON GOLF AND COUNTRY CLUB, YANGON MYANMAR




AXIS Architects Planners

18 JUL 1997

Date of Issue

# VILLA I



·PERSPECTIVE·




1ST STOREY PLAN




2ND STOREY PLAN

MINGALARDON GARDEN GOLF COURSE, YANGON, MYANMAR

AXIS ARCHITECTS PLANNERS

# VILLA II




1ST STOREY PLAN



PERSPECTIVE




2ND STOREY PLAN

MINGALARDON GARDEN GOLF COURSE, YANGON, MYANMAR



# VILLA III




1ST STOREY PLAN



·PERSPECTIVE·




2ND STOREY PLAN

MINGALARDON GARDEN GOLF COURSE, YANGON, MYANMAR



**SUPPLIERS CREDIT AGREEMENT**

**BETWEEN**

**ZAYKABAR CO., LTD**

**AND**

**SWI INVESTMENT PTE. LTD.**

THIS AGREEMENT (together with all annexures or appendiances attached hereto and forming an integral part thereof, hereinafter referred to as Agreement) made and entered into and delivered at Yangon, the Union of Myanmar on the .................................... day of Nineteen Hundred and Ninety Seven by and between, ZAYKABAR Co., Ltd a limited company duly organized and existing under the laws of the Union of Myanmar having its registered office Ground Floor Suite, Building (3), 8-Mile Junction, Mayangone Township, Yangon, Myanmar (hereinafter to as Party "A" which expression shall unless repugnant to the context or the meaning thereof, be deemed to include its successors legal representatives and permitted assigns) represented for the purpose of this Agreement by U Khin Shwe of the one part.

**and**

SWI Investment Pte. Ltd, a company incorporated under the laws of Singapore having its registered office presently, located at 18 Penjuru Road, Singapore 609126 (hereinafter referred to as Party "B" which expression shall unless repugnant to the context or the meaning thereof be deemed to its successors, legal representatives and permitted assigns) represented for the purpose of this Agreement by Mr. Teo Yeow Khoon.

## 1. OBJECTIVES

Party "A" shall buy and Party "B" shall supply capital goods and materials for use by Party "A" for setting up a golf and country club in Myanmar.

NOW THEREFORE IT IS HEREBY AGREE for and in consideration of premises and mutual convenants herein contained both parties agree as follows:-

## 2. REPRESENTATIONS AND WARRANTY

Each of the parties represents and warrants to the other that it is a legal person duly authorized under relevant laws and capable of entering into and performing this Agreement ,which constitutes its legal enforcable obligation.

3. **CONDITION PRECEDENT**

This Agreement is conditional upon receipt of all necessary and requisite approval for its perform ance and implemention from all relevant Government authorities in the Union of Myanmar.

4. **SCOPE OF THE AGREEMENT**

Supplies of machinery equipment amounting to US$ 5.133 million (United States Dollar Five Thousand One Hundred and Thirty Three Thousand) as par list enclosed herein this agreement as ANNEXURE I, herein after referred to as "the Goods".

5. **PAYMENT TERMS FOR SUPPLIERS CREDIT**

| | | |
|---|---|---|
| (1) | Rate of Interest | (8) percent per annum (Fixed rate) |
| (2) | Grace period | Three years which will be counted from date of final delivery of the said Goods. |
| (3) | Calculation of interest | Interest dues shall be calculated from the dues date of final delivery of the said Goods. |
| (4) | Repayment of principal | Principal amount for total price of the said Goods shall be paid and interest due within five years instalments. Yearly interest dues shall be paid together with principal payment dues. Repayment schedule attached as Annexure II. |
| (5) | Interest due for | Interest due for the grace period of one year shall be paid after grace period one year period from the date of final delivery of the said Goods, excluding services. |
| (6) | Mode of payment for due interest and principal of Suppliers Credit | By way of foreign exchange earning of the business operation. |

6. **EFFECTIVENESS**

This Agreement shall come into force and become effective on the date of signing by both parties.

7. **GOVERNING LAW**

This Agreement shall construed, governed and interpreted according to the Laws of the Union of Myanmar.

**8. GUARANTEE**

It is mutually agreed that guarantee for the machineries and equipment shall be 15 years.

**9. ARBITRATION**

(1) If any dispute arises over the interpretation or implementation of this Agreement, such dispute shall be settled amicably between the parties that cannot be settled amicably as mentioned above shall be settled in Union of Myanmar by arbitration, through two arbitrators appointed by and each representing one of the two parties. Should the arbitrators fail to reach an agreement, the dispute shall be referred to an Umpire nominated by the arbitrators. The arbitration proceeding shall in all respect conform to the Arbitration Act, 1944 (Myanmar Act IV of 1944) or any subsisting statutory modification thereof. The venue of arbitration shall be Yangon, Myanmar. The Arbitration Fees shall be borne by the party against whom the award is made.

**10. FORCE MAJEURE**

(1) If either party is temporarily rendered unable, wholly or in part, by Force Majeure to perform his duties or accept performance by the other party under this Agreement, it is agreed that the effected party give notice to the other party within 14 days after the occurrence of the cause relied upon giving particulars in writing of such Force Majeure. The duties of such party as are effected by such Force Majeure shall with the approval of the other party, be suspended during the continuance of the disability so caused, but for no longer period, and such cause shall as far as possible be removed with all reasonable despatch. Neither party shall be responsible for delay caused by Force Majeure.

**11. RENEGOTIATION**

In the event that any situation or condition due to circumstances not evisaged in the Agreement and warrants amendments to the Agreement, the parties shall make the necessary negotiation.

**12. MODIFICATION**

This Agreement shall not be annulled, amended or modified in respect expect except by the mutual consent in writing of the parties.

**13. GENERAL**

(1) All modifications or amendments to this - Agreement or extensions there of must be made in writing.

(2) The parties hereto agree to abide by the laws, rules, regulations, procedures and directives of the Union of Myanmar.

(3) ANNEXURES attached with the Agreement are integral part of this Agreement.

**IN WITNESS WHEREOF THE PARTIES** hereto have caused to this Suppliers Credit Agreement be executed according to the terms and conditions set forth on the date first above written.

Signed, Sealed and Delivered by,

For and behalf of Party " A "

**U Khin Shwe**
Managing Director
ZAYKABAR Co., Ltd.
Yangon, Myanmar.

In the presence of

____________________

____________________

____________________

For and on behalf of, Party " B "

**Mr. Teo Yeow Khoon**
Executive Director
SWI Investment Pte Ltd
Singapore.

In the presence of

____________________

____________________

____________________

## ROYAL MINGALARDON GOLF AND COUNTRY CLUB

ANNEXURE (I)

| Item | Description | Qty. | Unit | Unit Price(US$) | Amount(US$) |
|---|---|---|---|---|---|
| | **GOLF COURSE MAINTENANCE MACHINERY & EQUIPMENT** | | | | |
| 1 | Greens Mower | 8 | No. | $8,000.00 | $64,000.00 |
| 2 | Fairway Mower | 2 | No. | $30,000.00 | $60,000.00 |
| 3 | Rough Mower | 4 | No. | $15,000.00 | $60,000.00 |
| 4 | Back pack Mower | 10 | No. | $700.00 | $7,000.00 |
| 5 | Hallowtine Machine | 1 | No. | $15,000.00 | $15,000.00 |
| 6 | Truck Multipurpose | 6 | No. | $10,000.00 | $60,000.00 |
| 7 | Chushman Fertilizer Sprayer | 1 | No. | $25,000.00 | $25,000.00 |
| 8 | Buggi Golf Car | 20 | No. | $6,000.00 | $120,000.00 |
| 9 | Golf Course Accessories (Flag Stick, Cup etc.) | 1 | L.S | $10,000.00 | $10,000.00 |
| | **TOTAL** | | | | **$421,000.00** |

| Item | Description | Qty. | Unit | Unit Price(US$) | Amount(US$) |
|---|---|---|---|---|---|
| | **GOLF COURSE CONSTRUCTION MATERIAL** | | | | |
| 1 | Grassing | 1 | L.S | $30,000.00 | $30,000.00 |
| 2 | Irrigation System | 1 | L.S | $350,000.00 | $350,000.00 |
| | **TOTAL** | | | | **$380,000.00** |

| Item | Description | Qty. | Unit | Unit Price(US$) | Amount(US$) |
|---|---|---|---|---|---|
| | **GOLF COURSE CONSTRUCTION MACHINERY & EQUIPMENT** | | | | |
| 1 | Batching plant (re-conditioned) | 1 | set | $103,600.00 | $103,600.00 |
| 2 | 90 model D-6 dozer (re-conditioned) | 1 | No. | $100,000.00 | $100,000.00 |
| 3 | 90 model Sheet foot roller (re-conditioned) | 1 | No. | $74,000.00 | $74,000.00 |
| 4 | 90 model grader (re-conditioned) | 1 | No. | $56,000.00 | $56,000.00 |
| 5 | 90 model OT Excavator (used) | 5 | No. | $35,000.00 | $175,000.00 |
| 6 | 90 model small excavator (used) | 1 | No. | $14,000.00 | $14,000.00 |
| 7 | 90 model Road Roller (used) | 2 | No. | $28,000.00 | $56,000.00 |
| 8 | 90 model 10 ton tipper truck (used) | 20 | No. | $35,000.00 | $700,000.00 |
| 9 | Generator Machine (used) | 3 | No. | $5,600.00 | $16,800.00 |
| 10 | Water Pump & Hose (used) | 1 | No. | $3,500.00 | $3,500.00 |
| 11 | Water Tank (used) | 1 | No. | $1,400.00 | $1,400.00 |
| 12 | Spare Parts | | | | $70,000.00 |
| | **TOTAL** | | | | **$1,370,300.00** |

| Item | Description | Qty. | Unit | Unit Price(US$) | Amount(US$) |
|---|---|---|---|---|---|
| | **BUILDING MATERIALS** | | | | |
| 1 | Cement | 3000 | Ton | $100.00 | $300,000.00 |
| 2 | M.S deformed bar | 4000 | Ton | $400.00 | $1,600,000.00 |
| 3 | Clay Tile (roofing) | 25000 | No. | $1.30 | $32,500.00 |
| 4 | Sanitary Ware | 100 | unit | $3,000.00 | $300,000.00 |
| 5 | Aluminum Insulation sheet | 2500 | sq.m | $2.50 | $6,250.00 |
| 6 | Split Type Air Condition 1HP | 175 | No. | $625.00 | $109,375.00 |
| 7 | Split Type Air Condition 1.5HP | 175 | No. | $750.00 | $131,250.00 |
| | **TOTAL** | | | | **$2,479,375.00** |

